# ကျောင်းသားတစ်ယောက်အတွက်
# အိမ်ပြန်လက်ဆောင်


မွတ်ဖ်သီ မိုဟာမ္မဒ် အာစွင်းမ်

(နဒ်ဝီ၊ မဇ္ဇာဟေရီ၊ အဗ္ဗလ်ဟာစနီ)

# ပုံနှိပ်မှတ်တမ်း


| | |
|---|---|
| ထုတ်ဝေသည့်ကာလ | ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီ |
| ထုတ်ဝေသူ | ASM (ဟောရာစာပေ – မန္တလေး) |
| ပုံနှိပ်သူ | PGM ပြည်ကြီးမွန် ပုံနှိပ်တိုက် |
| | (၃၆ လမ်း– ၇၄×၇၅ ကြား) |
| အတွင်းစာစီ | ဇွဲထက်အောင် (မန္တလေး) |
| မျက်နှာဖုံးဒီဇိုင်း | ဇွဲထက်အောင် (မန္တလေး) |
| ဖြန့်ချိသူ | ဟာရမိုင်းန် (စာပေ) မန္တလေး |
| အုပ်ရေ | ၁၀၀၀ – အုပ် |

بسم الله الرحمن الرحيم

# မော်လာနာမုဖ်သီ အိုင်နွတ်ဒီးန်(နဒ်ဝီ၊အဗ္ဗလ်ဟာစနီ) ၏ရင်တွင်းစကား

الحمد لله رب العالمين، والصلاة والسلام على سيد الأنبياء والمرسلين سيد الأولين والآخرين، وعلى آله وصحبه أجمعين. أما بعد.

## နမ်းကြူစေချင် လှမ်းယှူငင်

ဆရာဟူသည် အတတ်ပညာ၊ အသိပညာများဖြင့် ကျောင်းသား ဘဝအား ထာဝရအရိပ်အာဝါသပေးမည့်သူ သာဖြစ်သည်။ ထို့အပြင် ဆရာတို့သည် တပည့်များ အတွက် အခရာကျသော ပုဂ္ဂိုလ်များလည်း ဖြစ်ကြပါသည်။ ဆရာတို့၏မေတ္တာဟူသည် စိမ့်စမ်းရေသို့နယ် ကြည်လင်အေးမြ၏။

အမှန်စင်စစ် ဆရာသခင်တို့သည် မိမိတို့၏တပည့်သားမြေးများအပေါ် ......

ရှေးရှူမေတ္တာ ကရုဏာနှင့်
နာနာကျင်ကျင် အပြစ်မြင်တိုင်း

ဝမ်းတွင်မသို ဟုတ်တိုင်းဆို၍
ကျိုးလိုစိတ်က ဆုံးမတတ်သူ
ဆရာဟူလော့

ဟု မေတ္တာ၊ ကရုဏာ၊ မုဒိတာဆိုသည့် တရားတို့နှင့်အညီ သွန်သင်ညွှန်ပြ ဆိုဆုံးမကြသည့် သူများသာ ဖြစ်ကြပါသည်။

တပည့်များကို မုန်းတီးနာကြည်းတတ်သည့် ဆရာဟူ၍လည်းမရှိပေ။ ဝါသနာ၊ စေတနာ၊ အနစ်နာ ဆိုသည့် နာသုံးနာနှင့်အညီ တပည့်များအပေါ် အကြင်နာတရားထားရှိပြီး မုဒိတာတရားလည်း ပွားများနိုင်သည့် ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်များသာ ဖြစ်ကြပါသည်။ ထို့ကြောင့် ဆရာများနှင့်စပ်လျဉ်း၍လူ့လောကမှာ ခိုင်းနှိုင်းစံပြုထားသော အရာများမှာ မနည်းလှပေ။

တဖန်အစ္စလာမ့်ကျောင်းတော်ဆိုသည်မှာ ကုရ်အာန်၊ ဟဒီးဆ် ပညာရပ်တို့နှင့် မွှေးထုံသင်းပျံ့ ကြိုင်လှိုင်နေသော သာသနာ့ပန်းဥယျာဉ် တစ်ခုပင်ဖြစ်သည်။ ဆရာတို့သည် အဆိုပါပန်းဥယျာဉ်အား ထာဝရမွှေးကြိုင်လန်းဆန်းနေ

စေရန် ပြုစုပျိုးထောင်ပေးသော ဥယျာဉ်မှူးများဟု တင်စားမှည့်ခေါ်နိုင်၏။

ထို့အတူ မိမိတို့ပြုစုပျိုးထောင်ထားသော နုနုရွရွ ပန်းအလှလေးများကို ပန်းချိုးသူများလက်မှ ကာကွယ်ပေးသော ပန်းပျိုးလက်များ လည်းဖြစ်သည်။ ဥယျာဉ်မှူးတို့၏ အားသွန်ခွန်စိုက် ပြုစုပျိုးထောင်မှုတို့ကြောင့် သာသနာ့ပန်းခိုင်၊ ပန်းမြိုင်၊ ပန်းမြတ်ဟူသော ကျောင်းတော်သားတို့မှာ ဖူးပွင့်ဝေဆာ မွှေးကြိုင်လန်းဆန်းလာရခြင်းပင်ဖြစ်သည်။

မိမိတို့ပြုစုပျိုးထောင်ပေးခဲ့ကြသည့် အလှပန်းများအားအမြင်မှာလန်း အသွင်ဆန်းစွာနှင့် ငွားငွားစွင့်စွင့် ပွင့်စေချင်သည်မှာ ဥယျာဉ်မှူးတို့၏ဓမ္မတာပါ။ ပွင့်သောပန်းတိုင်းမွှေး၍မွှေးသောပန်းတိုင်းလည်း လူပုံအလယ်မှာ တင့်တယ်စွာပန်ဆင်ခံစေလိုသည်မှာ ဥယျာဉ်မှူးတို့၏စေတနာပါ။ လန်းဆန်းနေသော သာသနာ့ပန်းခင်းများကို ခြွေလိုသူလက်ကြမ်းတို့၏ ဘေးအန္တရာယ်များမှ ကာကွယ်ပေးခြင်းမှာ ဥယျာဉ်မှူးတို့၏မေတ္တာပါ။ နွေးထွေးသောလက်များ

နှင့် မွှေးသောပန်းများကိုပျိုး၍ ပန်းအလှအမျိုးမျိုးနှင့် လောကတခွင်ကို အလှဆင်လိုသည်မှာလည်း ဥယျာဉ်မှူး တို့၏ဆန္ဒပါ။

စနစ်တကျပြုစုပျိုးထောင်ခြင်းကြောင့် ပွင့်ဖူးဝေဆာ လာသော အပွင့်အခတ်တို့သည် ထုံသင်းမွှေးကြိုင်သည့် ရနံ့သစ်တို့ကို ပေးစွမ်းနိုင်၏။ လူသားတို့၏ အမြင်အာရုံကို လန်းဆန်းစေ၏။ ပတ်ဝန်းကျင်ကိုသာယာအေးချမ်းစေ၏။ ကောင်းသောအကျိုးကို ပေးစွမ်း၍ အကျိုးကောင်းများကို ဖြစ်ပေါ်စေ၏။

ထိုသို့ရနံ့ထုံသင်းအရောင်အသွေးစုံလျင်သော ပန်းခင်း ပမာဖြစ်ကြသည့်သာသနာ့ကျောင်းတော်သားတို့ကို မပျက် မစီး ရနံ့မကင်းရလေအောင် ဆရာသခင်ဥယျာဉ်မှူးတို့က ကြည့်ရှု စောင့်ကြပ်ပေးကြ၏။ အေးချမ်းလုံခြုံသောဘဝကို ဖြည့်ဆည်းပေးကြ၏။ အဖျက်၊ အမှောက် အနှောက် အယှက်ဟူသမျှကို ထိန်းသိမ်းကာကွယ်ပေးကြ၏။

သို့သာမက တပည့်များစွာ ငါ့ထက်သာ၍နေရာတိုင်း တွင် အရေးပါက ငါ၏ဘဝကျေနပ်လှသည်ဟူသော ခံယူ

ချက်ကို ရင်ဝယ်ပိုက်ထား မုဒိတာပွားသူများ ဖြစ်ကြသည်။ ဤသည်တို့မှာ အတ္တဟိတကင်းပြီး ပရဟိတအချင်းရှိသော ပုဂ္ဂိုလ်မြတ်တို့၏ ဝိသေသတစ်ရပ်ပင်ဖြစ်သည်။

အချိန်တန်လျှင် အိမ်ပြန်ရမည် ဆိုသည့်အတိုင်း သန့်ပြန့်စင်ကြယ်သော သာသနာ့ကျောင်းတော်ကြီးမှ အဆိုပါကျောင်းတော်သားတို့သည် မွေးရပ်ဌာနေ ဇာတိမြေသို့ ပြန်ကြရတော့မည်ဖြစ်သည်။ သန့်ပြန့်စင်ကြယ်သည့် သာသနာ့ပန်းမြိုင်ဥယျာဉ်အတွင်း၌ စည်းနှင့်ဘောင်နှင့် နေထိုင်နိုင်ခြင်းမှာ ချီးမွမ်းဖွယ်ရာမဟုတ်ပေ။ မွေးရပ်ဌာနေဇာတိမြေ၌လည်း ပတ်ဝန်းကျင်နှင့် သဟဇာတဖြစ်ပြီး ရနံ့သင်းသင်း အဆင်းလှလှ မျှမျှတတနေထိုင်နိုင်ခြင်းသည်သာ ချီးမွမ်းဖွယ်ရာဖြစ်သည်။

ပန်းရနံ့များ မွှေးထုံသင်းကြည်နေသော ပန်းဥယျာဉ်ထဲ၌ ရနံ့သင်းတဲ့ပန်းတစ်ပွင့်ဟာ ဥယျာဉ်မှူးတို့၏ပြုစုပျိုးထောင်မှုကြောင့် တင့်တယ်လှပနေမည်မှာ ဧကန်မလွဲပင်ဖြစ်သည်။

ဥယျာဉ်မှူးတို့၏တာဝန်သည် ပန်းဥယျာဉ်အတွင်းသာ မွေးထုံသင်းကြူနေရန် ပြုစုပျိုးထောင်ပေးခြင်းမဟုတ်ပေ။ ထာဝရ၊ ထာဝစဉ် သင်းကြိုင်မွှေးထုံနေသော တော်ဝင်ပန်းခတ်၊ ပန်းမြတ်ပန်းခိုင်တို့ ဝေဆာပွင့်ဖူး ရနံ့ထူးလာစေရန် ကြိုးစားအားထုတ် ဆောင်ရွက်နေကြခြင်းပင်ဖြစ်သည်။ ဆရာကောင်းတပည့် ပန်းကောင်းပန် ဆိုသကဲ့သို့ လူ့လောကအလယ်မှာ လူကောင်းလူတော်လေးများ ဖြစ်လာစေချင်သည်မှာ ဆရာသခင်တို့၏စေတနာ၊ မေတ္တာ၊ မုဒိတာတရားများပင်ဖြစ်သည်။

ထို့ကြောင့် ပန်းမြတ်၊ ပန်းလှတို့၏ ဂုဏ်ပုဒ်၊ ဂုဏ်ဒြပ်တို့နှင့်အညီ ထာဝစဉ်မွှေးကြိုင်လန်းဆန်းနေပြီး ဘေးအန္တရာယ်အသွယ်သွယ်ကို ကာကွယ်တွန်းလှန်နိုင်စေရန် ဆရာသခင် ဥယျာဉ်မှူးတို့က အားဖြည့်ဓာတ်စာ ဆေးစွမ်းကောင်းများကို ဖေါ်စပ်သွန်းလောင်းပေးနေခြင်းပင်ဖြစ်သည်။

ရောင်စုံပန်းခင်းနှင့် အလားသဏ္ဍာန်တူသည့် သာသနာ့ကျောင်းတော်သားတို့သည် အဆိုပါ ဆေးစွမ်းကောင်းတို့

အား စုပ်ယူအားပြုပါက မွေးကြိုင်ထုံသင်းသော ရနံ့သစ်တို့ကို အများအကျိုးအတွက် ပေးစွမ်းနိုင်မည်ဖြစ်သည်။ ထို့အတူ ကျောင်းတော်သားတို့သည် မွေးသောပန်းများသာဖြစ်ကြရာပြီး လူတို့၏စွန့်ပစ်ဖွယ်ရာ လူ့ပေါက်ပန်းများ မဖြစ်ကြရပေ။ လူ့အကျိုးပြုပုဂ္ဂိုလ်များသာ ဖြစ်ကြရာပြီး လူဆိုး၊ လူမိုက်၊ လူ့ငမိုက်များ မဖြစ်ကြရပေ။

ဤသည်အတွက်လည်း ဆရာသခင်တို့က အမြဲအစဉ်ဆုံးမပဲ့ပြင် သွန်သင်နေခဲ့ကြပါသည်။ ဆရာသခင်တို့၏ သောကထား ဆုံးမသွန်သင်မှုတို့သည် ကျောင်းတော်သားတို့အတွက် လုံလောက်သော ဘဝလက်ဆောင် ဆေးစွမ်းကောင်းများပင်ဖြစ် သည်။

လေစားချစ်ခင်ဖွယ်ကောင်းသော ကျွန်ုပ်တို့၏ခမ္မမိတ်ဆွေ အလ်ဟာဂျ် မောင်လာနာ မွတ်ဖ်သီ ကာရီ အာဆွင်းမ် (နဒ်ဝီ အဗွလ်ဟာစနီ မဇွာဟေရီ) ဆွာဟစ်ဗ်က ဆရာသခင်တို့၏ ရင်တွင်းခံစားချက်တို့ကို စာပေအသွင်အဖြစ် ချစ်တပည့်တို့၏ရှေ့သို့ ဖွင့်ဟချပြလိုက်ပြီဖြစ်သည်။ သာသနာ့အကျိုးတွင် ကြီးမားထည်ဝါသော

ထည့်ဝင်မှုတစ်ခုကို လက်တွေ့အကောင်အထည်ဖော် ဆောင်ရွက်ပြခဲ့ခြင်းပင်ဖြစ်သည်။ လေးစားဂုဏ်ယူဖွယ် ကောင်းသော ဆောင်ရွက်ချက်တစ်ရပ်ပင်ဖြစ်၏။အလ္လာဟ် အရှင် နှစ်ဘဝနှစ်ဌာနစလုံးတွင် ကောင်းသောအစားချီးမြှင့် ပေးသနားတော်မူပါစေ။ အာမီးန်။

ဆရာ၏ဆုံးမဩဝါဒတို့သည် ကျောင်းတော်သားများ အတွက် လိုက်နာကျင့်သုံးရန် လုံလောက်လှပါသည်။ ဆရာများ အားလုံး၏အဖြစ်ချင်ဆုံး ဆန္ဒများကိုလည်း အပြည့်အစုံထည့်သွင်း ဖော်ပြထားပါသည်။ ထို့ကြောင့် နှလုံးသားနှင့်တွေးပြီး နှလုံးသွေးနှင့်ရေးသားသီကုံး ထားသော ဆရာသခင်၏ဆုံးမဩဝါဒတော်များကို အပြည့် အဝ လိုက်နာကျင့်သုံးပါက မွေးသောပန်းများအဖြစ် ပတ်ဝန်းကျင်ကို မွှေးကြိုင်လန်းဆန်းစေမည်မှာ ဧကန်မလွဲ ပင်ဖြစ်၏။

ချစ်တပည့်တို့၏ဘဝလမ်း ဖြောင့်ဖြူးစေရန် ခူးယူ ကုံးသီခဲ့သော ဩဝါဒပန်းတစ်ခိုင်ကို လှမ်းယူ နမ်းကြူကြ ပါကုန်ဟု မေတ္တာရှေ့ထားညွှန်ကြားအပ်ပါသည်။ အလ္လာဟ်

အရှင် ကျောင်းတော်သားအားလုံးကို နာယူကျင့်သုံးနိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

နိဂုံးချုပ်အနေနှင့် ဆရာကြီးပန်းဝါနွယ်၏ ကဗျာတစ်ပုဒ်ကို အဆုံးသတ်တင်ပြလိုပါသည်။

မီးသွေးကာဗွန် စိန်ကာဗွန်တည့်၊
ကာဗွန်စစ်စစ် ဓာတ်ချည်းဖြစ်လည်း
မာကျစ်စိန်ခဲ လည်မှာဆွဲ၏။
မဲပွမီးသွေး ရှောင်မြဲဝေးစွာ
မီးလောင်စာတည့်။

ဆရာသခင်တို့၏ ဆုံးမသွန်သင်မှုများကို နာခံကျင့်သုံးရင်း လှပတင့်တယ်သော လူတို့၏လည်တွင်ဆွဲသည့် အဖိုးတန် စိန်ရွှေရတနာများ အဆင့်အတန်းသို့ ရောက်ရှိကြပါစေဟု ဆုမွန်ကောင်း တောင်းခံအပ်ပါသည်။ အာမီးန်

**မိုဟာမွဒ် အိုင်နွတ်ဒီးန် (ချောက်)**

**နဒ်ဝီ၊ အဇ္ဇလ်ဟာစနီ**

**၂၀၁၉ ခုနှစ်၊ နိုဝင်ဘာ (၁၆)၊ စနေနေ့**

بسم الله الرحمن الرحيم

الحمد لله وحده، والصلاة والسلام على من لا نبي بعده، وعلى آله وصحبه الذين اتبعوا سننه وهديه. وبعد.

## အနေဝေးပေမယ့်လည်း စိတ်အတွေးတွေနီးစပ်ပါရစေ

ကျောင်းပိတ်တော့မယ်ဆိုတဲ့သတင်းဟာ ကျောင်းသားတွေကို ပျော်ရွှင်မှုတွေပေးပေမယ့် ဆရာတွေအတွက်ကတော့ ခေါင်းကိုက်ဆေးပဲ။ ဘယ်ဥယျာဉ်မှူးမှ ကိုယ်ပျိုးတဲ့ပန်းချိုးတာကို၊ ဘယ်လိုမိဘမျိုးမှ သားသမီးနဲ့ခွဲခွာရတာကို မနှစ်မြို့တတ်ပါဘူး။ ဘယ်လိုဆရာမျိုးကမှလည်း ကိုယ့်ချစ်တပည့်လေးတွေ မျက်စိအောက်ကပျောက်သွားမှာကိုမခံစားနိုင်ပါဘူး။

နဒ်ဝသွလ်အိုလမာဟ်ကျောင်းတော်ရဲ့ ရှိုင်ခွလ်ဟဒီးဆ်မော်လာနာ ဇကရီယာ စန်ဗလီသခင်ကြီးဟာ တစ်နှစ်ပတ်လုံး ခွင့်ယူလေ့မရှိပါဘူး။ ဒါပေမယ့် ကျောင်းပိတ်မယ့်ရက်ဆို ကျောင်းမလာတော့ဘူး။ အကြောင်းကိုမေးတော့ "မင်းတို့နဲ့ခွဲရမှာကို ငါမခံစားနိုင်လို့ အိမ်မှာပဲ မျက်စိကိုမှိတ်

အံကြိတ်ငိုနေတာပါကွာ" လို့ဖြေရှာတယ်။ ဒါဟာဆရာ တိုင်းရဲ့ သစ္စာစကား၊ မေတ္တာခံစားချက်ပဲ။

တချို့ဆရာများကြတော့လည်း ဆတ်ဆတ်တုံနေတဲ့ အသဲနှလုံးကိုထိန်း၊ ယိုဖိတ်နေတဲ့မျက်ရည်စတွေကို မသိ မသာဖယ်သုတ်ရင်း အငိုမျက်လုံး အပြုံးမျက်နှာနဲ့ "ကျောင်းပိတ်ရက်ကို တန်ဖိုးရှိအောင် အသုံးချကြကွာ၊ လိမ္မာစွာနေကြ၊ မိဘတွေကိုဂရုစိုက်ကြ။" စတဲ့မှာတမ်း ချက်တွေနဲ့မိမိတို့ခံစားချက်တွေကိုဖုံးဖိဖို့ကြိုးစားနေကြပါ တယ်။

အော် ကဗျာဆရာပြောတဲ့ခံစားချက်တွေဟာ လက် တွေ့ကျလွန်းပါလား

نسرق الدموع في الجيوب حياء وبنا ما بنا من الأشواق

အိမ်ကနေကျောင်းပြန်ချိန် ဆရာတိုင်းဟာ တစ်ခုခု တော့ မှာလေ့ရှိကြတာပဲ။ သူတို့ရင်ခွင်ကနေထွက်ခွာသွား တဲ့ ကျောင်းသားငယ်တွေကို စွမ်းစေချင်တယ်။ ထက်စေ ချင်တယ်။ အစိပ္ပါယ်ရှိသူတွေဖြစ်စေချင်တယ်။ သူတို့ရင် သွေးငယ်တွေကို သူများပြောတာ၊ ကဲ့ရဲ့တာမျိုးတွေကို

မခံစားနိုင်ကြဘူး။ သူတို့ရင်သွေးငယ်တွေအကြောင်း တစ်ယောက်ယောက်က ချီးကျူးလိုက်လို့ကတော့ ဝမ်းသာပီတိတွေစားရင်း ခပ်ပြုံးပြုံးတွေနဲ့။ သောက်လေသောက်လေ ငတ်မပြေဆိုတာမျိုးပေါ့။

شربت الحب كأسا بعد كأس　　فما نفد الشراب وما رويت

سقوني وقالوا لا تُغَنِّ ولو سقوا　　جبال شروري ما سقيت لغنت

حمامة جرعى حومة الجندل اسجعي　　فأنت بمرأى من سعاد ومسمع

စာရေးသူလည်း ဆရာမဟုတ်သောဆရာတစ်ဦးပါပဲ။ ချစ်တပည့်များနဲ့ ခွဲခွာချိန် ပြောခွင့်မရတာလေးတွေကို အခုလို စာလွှာပါးရင်း ရင်ထဲကခံစားသမျှကို ရေးချပစ်လိုက်ပါတယ်။ ချစ်တပည့်တို့ နားလည်ကြပေါ့။ လက်တွေ့လိုက်နာကြပေါ့။ နေခြည်ဦးကိုကြိုလင့်တဲ့ ပန်းတွေကို၊ နေဝင်ချိန် အိပ်တန်းတက်ငှက်ငယ်တွေကို၊ ညချမ်းမှာ ဆော့ကစားတဲ့ လေပြေတွေကို ချစ်တပည့်တို့အကြောင်းတွေမေးမှာနော်။ တန်ဖိုးရှိလှတဲ့ အားလပ်ရက်တွေကို မိမိရရအသုံးချပြီး အောင်မြင်ကြပါစေ။

တွေ့ဆုံမှုတိုင်းရဲ့နိဂုံးဟာခွဲခွာခြင်းဆိုပေမယ့်လွမ်းဆွတ်တမ်းတနေမယ်ဆိုရင် ရတယ်နော်။ ဒီစာအုပ်လေးဟာ ဆရာတွေနဲ့ကျောင်းရဲ့ အလွမ်းတွေချစ်တပည့်တို့ဆီ သယ်ဆောင်လာလိမ့်မယ်။

အနေဝေးပေမယ့်လည်း စိတ်အတွေးတွေ

နီးစပ်ပါရစေနော်..

إن التباعد لا يضر إذا تقاربت القلوب

**မုဟမ္မဒ် အာစွင်းမ်**

**(နဒ်ဝီ၊အဇ္ဇလ်ဟာစနီ၊မဇွာဟေ့ရီ)**

15/ ربيع الأول/ 1441 هـ (يوم الأربعاء)

بسم الله الرحمن الرحيم

الحمد لله على جميع النعم، والصلاة والسلام على سيدنا محمد وعلى آله وصحبه ما جرى المداد بالقلم. وبعد.

# ကျောင်းသားတစ်ဦးအတွက် အိမ်ပြန်လက်ဆောင်

## အချိန်တန်ရင် အိမ်ပြန်ချင်

ကျောင်းသားတိုင်းကို ပျော်ရွှင်မှုအပေးဆုံး သတင်းကတော့"ကျောင်းပိတ်တော့မယ်"ဆိုတဲ့သတင်းပါပဲ။ ကျောင်းဟာ အိမ်ထက်မလျော့တဲ့နွေးထွေးမှုတွေပေးနေပေမယ့်လည်း အချိန်တန်ရင်အိမ်ပြန်ချင်တာကျောင်းသားသဘာဝပါပဲ။

လှောင်အိမ်ထဲက ငှက်ငယ်လေးတောင် ခံစားတတ်တယ် ဆိုတော့ .....

الحبس ليس مذهبي وليس فيه طربي

فلست أرضى قفصا وإن يكن من ذهب

"အချုပ်အနှောင်ထဲ ဝဲလည်နေခြင်းဟာ ကျွန်တော့် လမ်းစဉ်မဟုတ်ပါဘူး။ ထိုချုပ်နှောင်မှုထဲမှာ ကျွန်တော့်ရဲ့

သာယာပျော်ရွှင်မှုတွေ လည်းမရှိလို့ပါ။ လှောင်အိမ်ဆိုရင် ရွှေစင်နဲ့ပင်ဖြစ်ပါစေ မနှစ်မြို့တာကျွန်တော့်ဗီဇပါ။"

أبو تمام (အဗူသမ်မားမ်) ကလည်းကျောင်းသားရဲ့ စိတ်ခံစားချက်ကို အခုလိုထုဆစ်ပုံဖော်ပြန်တယ်။

نقلْ فؤدكَ حيثُ شئتَ من الهوى    ما الحبُّ إلا للحبيبِ الأولِ

وكمْ منزل في الأرضِ يألفه الفتى    وحنينُه أبداً لأولِ منزلِ

"အချစ်ပဲပြောင်းပြောင်း၊ အပြောင်းပဲချစ်ချစ်၊ အချစ်စစ်ကိုတော့ အချစ်ဦးကသိမ်းပိုက်ထားလိုက်ပြီ။ လောကမှာလူငယ်တို့ပျော်ပိုက်ရာ ဒေသတွေပေါ်များနေပေမယ့်လည်း အမြဲစိတ်စွဲလမ်းရာဌာနေကတော့ မွေးမြေရပ်ပါပဲ။"

ဒီလိုဆိုရင် ကျောင်းသားတစ်ဦးအိမ်ပြန်ချင်တာ အပြစ်တင်ဖွယ်ရာ မဟုတ်တော့ပါဘူး။

**ဒီလိုနဲ့ပဲတနေ့ကျွန်တော်တို့ဟာသခ်ါရလောကကိုနှုတ်ဆက်အာခေရသ်ပန်းတိုင်ဆီ လှမ်းချီရမယ်ဆိုတာကို မမေ့ဖို့လိုတယ်နော်။**

## အိမ်သို့မျှော်ရင်း စဉ်းစားခြင်း

အိမ်မပြန်ခင် ကိုယ့်အတွက်စတေးနေတဲ့ မိသားစုရဲ့ မျက်နှာလေးတွေကို ပြန်မြင်ယောင်ကြည့်ရအောင်။ တချို့ မိသားစုတွေကတော့ ဘဝပေးအခြေအနေကောင်းလို့ တင့်တင့်တယ်တယ် စိုစိုပြည်ပြည်ရှိကြတယ်။ အများစုက တော့ အခြေအနေအရလောကဓံမှာ ရုန်းကန်နေရ ရှာသူ တွေပါ။

- ♥ သူများအိမ်ဖော်ဘဝနဲ့သားကျောင်းမုန့်ဖိုး စုနေတဲ့မိဘတွေ
- ♥ ကိုယ့်လခ မတိုးလည်း သားကျောင်းမုန့်ဖိုးတော့ တိုးပေးရမယ်။ ငါတို့ထမင်းတစ်နပ်၊ အဝတ် တစ်ထည်လျှော့ဝတ်လို့ ဘာမှဖြစ်ပါဘူး။ ဆိုတဲ့ ပီတိကိုစား၊ မေတ္တာထားနေတဲ့ အိမ်ထောင်ဦးစီးတွေ
- ♥ အိမ်မှာအားလုံးအဆင်ပြေတယ်၊ သားစာကြိုးစား နော်။ ဘာလိုလိုမှာအုံးဆိုတဲ့ကျေးဇူးရှင်တွေ။

♥ စားပွဲထိုးလုပ်ရင်း ကိုယ့်ညီငယ်လေးကို ကျောင်းမှာ သူများနဲ့တန်းတူနေစေလိုတဲ့ ညီအစ်ကိုမောင်နှမတွေ။

♥ လွှမ်းဆွတ်ပေမယ့်လည်း ပညာတွေ၊ အကြင်နာတွေ တပွေ့တပိုက်နဲ့ အိမ်ပြန်လာမယ့်သားကို ကြိုတင်ပုံဖော် မြင်ယောင်ရင်း ဖြေသိမ့်နေတဲ့ မေမေ။

♥ မစားရက်မသောက်ရက်နဲ့ သားအတွက်ငွေစုဆောင်းပေးနေတဲ့ အာဟာရသိဒ္ဓိရှင် ဖခင်။

**အားလုံးပင်တာဝန်ကျေကြပါတယ်။**

**ကျောင်းသားတစ်ဦးအာလင်မ်တစ်ပါးဖြစ်ဖို့ နောက်ကွယ်က ပေးဆပ်နေတဲ့ နှလုံးသားပိုင်ရှင်၊ စတေးနေတဲ့ အိမ်တွင်းက ပွဲကိုင်ရှင်တွေရဲ့ ကျေးဇူးတွေက တကယ်များပါလား။**

**မပြန်ခင် ကြိုတင်စီစဉ်**

ကဲ ... ဒါဆို ချစ်သားလေးကရော သူတို့အတွက် ဘာတွေ စီစဉ်ထားပြီလဲ။ ဘာလက်ဆောင်တွေယူသွားမှာလဲ။ စားစရာတွေလား၊ ခနနဲ့ကုန်မှာပေါ့။ ဝတ်စရာတွေ

လား၊ မကြာခင်ဟောင်းသွားမှာပေါ့။ အမြဲသစ်လွင်ပြီး ထာဝရလန်းဆန်းနေမယ့်၊ ဘဝအချို့အကွေးတိုင်းမှာ အသုံးဝင်နေမယ့် လက်ဆောင်တွေ ယူသွားရပါမယ်။ အခု ထဲက စဉ်းစားတော့။ ဒီအခွင့်အရေးကို လက်လွှတ်ဆုံးရှုံး မခံနဲ့။

**အခြားလက်ဆောင်များအစား တရားလက်ဆောင်များ**

အိုချစ်သား .... အိမ်မှာရှိနေတဲ့ မိသားစုတွေထဲမှာ သာသနာရေးရှုထောင့်ကနေ ဘာကွက်လပ်တွေရှိနေမလဲ အရင်စဉ်းစားကြည့်စမ်းပါ။

**အိမ်ကမိသားစုရဲ့**

- ♥ အကီဒဟ်(ယုံကြည်ချက်)က ဘယ်လိုလဲ
- ♥ အေဗာဒသ်(ခဝပ်မှု)က ဘယ်လိုလဲ
- ♥ မုအာမလားသ် (အပေးအယူ)ကဘယ်လိုလဲ
- ♥ မုအာရှရသ် (လူမှုဆက်ဆံရေး)ကဘယ်လိုလဲ
- ♥ အခ်လားက် (စာရိတ္တပိုင်း)က ဘယ်လိုလဲ
- ♥ အမေ အစ်မ၊ အဒေါ် ညီမတွေဟာ အစ္စလာမ့်ပရ်ဒါ နဲ့လား

- ♥ ကျင့်ရန်၊ ကြဉ်ရန်၊ ဆောင်ရန်၊ရှောင်ရန်တွေကို ဂရုစိုက်ကြလား

**နောက်ထပ်လည်း ဉာဏ်ကူပြီးချဲ့ထွင်**

**စဉ်းစားတတ်ပါစေ ချစ်သား ...**

**အိမ်ကမိသားစုတွေကို ဘယ်အခြေအနေပေါ်မှာ ထားခဲ့မလဲ**

သားတို့ရဲ့ ကျောင်းပိတ်ရက်တွေဟာ တိုတောင်းချင်တိုတောင်းပါမယ်။ ဒါပေမယ့် ဒီးန်သင်ပေးခဲ့ဖို့ တစ်နာရီဆိုတဲ့အချိန်ကလည်းများပါတယ်။ သူတို့တွေကို ဒီးန်သင်ပေးတဲ့နေရာမှာ "ဟစ်က်မသ်" ကိုဥပေက္ခာ မပြုမိပါစေနဲ့၊ မေတ္တာနဲ့ သိမ်မွေ့စွာနဲ့သင်ပေးပါ။ "အိခ်လားစ်" ကို အဖော်ပြုထားပါ။ ဒါဟာကုရ်အာန်ကပြောတဲ့ ဒအ်ဝသ် နီတိပဲ။ မြတ်နဗီ (ﷺ) ကလည်း ဒီတိုင်းလက်တွေ့ဖိတ်ခေါ်ပြခဲ့တယ်။ ဒီနည်းလမ်းရဲ့ အင်အားကြောင့်ပဲ ရန်သူတွေဟာ မိတ်ဆွေတွေအဖြစ်ပြောင်းခဲ့ရတယ်။ မွန်းကြပ်လှတဲ့ ရှစ်ရ်က်အမှောင်ထုကနေ ရှင်ဘုရင်တွေတောင် ရှန်းထွက်နိုင်ခဲ့ပြီး အစ္စလာမ့်အေးရိပ်ဆာယာအောက် ခိုလှုံနိုင်ခဲ့တယ်။ သမိုင်းကို ပြန်မေးကြည့်ပါ။ စီရသ်စာမျက်နှာတွေကို ပြန်လှန်ကြည့်ပါ။

**ပထမ သင်ပေးရမှာက** لَا إِلَهَ إِلَّا اللهُ مُحَمَّدٌ رَسُوْلُ اللهِ

ဦးစွာပထမသူတို့ကို အီမာန်သင်ပေးပါ။ ကိုယ်တော် မြတ် (ﷺ) က မုအာဇ် (رضي الله عنه) ကို ယီမင်စေလွှတ်ချိန် အရင်ဆုံး ယီမင်နိုင်ငံက ကျမ်းရပုဂ္ဂိုလ်တွေကို အီမာန်အကြောင်း ဦးစားပေး တင်ပြဖို့မိန့်ခဲ့တယ်မဟုတ်လား။

ဒါကြောင့်သူတို့ကိုလည်း အရင်ဆုံးကလိမဟ်ရဲ့ အနှစ်သာရတွေကို ရှင်းပြပါ။ ကလိမဟ်ရဲ့ တန်ဖိုးကို ရှင်းပြပေးပါ။ ဒီကလိမဟ်ဆိုတာ လူတိုင်းမရတဲ့ နိအ်မသ်ဆိုတာ ပြောပေးပါ။ အရဗီလိုဖတ်ရတယ်။ ဒါပေမယ့် အရဗ်တွေ၊ အရဗီစာပေအနုပညာရှင်တွေ ဖတ်ခွင့်မရခဲ့ဘူး။ ကျွန်တော်တို့လို အညတရတွေ ကိုယ်တော့်ခေတ်နဲ့လည်းဝေး၊ မက္ကာ့ဟ်မြေနဲ့လည်းမနီးတဲ့ မြန်မာတွေ ကလိမဟ်ကို ဖတ်ခွင့်ရတယ်ဆိုတာမျိုးပေါ့။ ဒီကလိမဟ်ကို သူတို့လေးတွေမှန်ကန်စွာဖတ်နိုင်လားဆိုတာကိုလည်း ဟစ်က်မသ်နဲ့ သိဖို့ကြိုးစားအုံး။ သူတို့ကို ကလိမဟ်ဖတ်ပြပါလို့ အရင်မတောင်းဆိုပါနဲ့။ကိုယ်ကစာလုံးစာသံမှန်မှန်နဲ့ဥာန်ကရိုဏ်း ကျကျအရင်ဖတ်ပြပါ။ အချိန်၊ နေရာသတ်မှတ်၊ အရာအား

လုံးနဲ့ အဆက်အသွယ်ဖြတ်ပြီး အာရုံအပြည့်နဲ့ ကလိမယ်တော်ကို တစ်နေ့မှာအနည်းဆုံးအကြိမ် (၁၀၀) ဖတ်နိုင်ဖို့ အကျင့်လုပ်ပေးခဲ့ပါအုံး။

သွားရင်း၊ လာရင်း၊ ထိုင်ရင်း၊ ထရင်းနဲ့လည်း ကလိမယ်တော်ကိုပဲ ရွတ်ဆိုနေဖို့၊ အမေအစ်မတွေက လည်း ချက်ရင်းပြုတ်ရင်း၊ လျှော်ရင်း၊ ဖွတ်ရင်းနဲ့ ကလိမယ်တော်ကို နှလုံးသွင်းပြီး နှုတ်ကနေ အမြဲရွတ်ဆို နေသူတွေဖြစ်အောင် လုပ်ပေးခဲ့ပါ။

ငယ်ရွယ်စဉ်က သူတို့တွေဖတ်ခဲ့တဲ့ ကလိမယ် (၇) ပုဒ်ကို ပြန်ရှင်းပြပေးခဲ့ပါ။ သူတို့ငယ်ဘဝက ဖတ်ခဲ့သမျှတွေနဲ့ သူတို့ကို ပြန်ချိတ်ဆက်ပေးခဲ့ပါ။ သာသနာ့အသိတွေက လက်တစ်ကမ်းမှာပဲလို့ ပြောပေးပါ။

ညီငယ်၊ညီမငယ်လေးတွေကိုလည်း ကလိမယ်သင်ပေးခဲ့အုံးနော်။ သူတို့က ပုံပြင်ကြိုက်တယ်။ တခြားပုံပြင်တွေပြောမယ့်အစား မြတ်နဗီ ရဲ့အကြောင်းတွေ၊ ဆွဟာဗာတွေရဲ့အကြောင်းတွေ၊ သမိုင်းတစ် လျှောက်ထွန်းတောက်ခဲ့ကြတဲ့ ဝလီသူတော်စင်ကြီးတွေရဲ့ အကြောင်းတွေကို

ပြောပြပေးပါ။ အခုတည်းက ကြိုတင်လေ့လာထားပါ။ ပွဲမဝင်ခင် အပြင်ကလေ့ကျင့်ဆိုတာသိတယ်နော်။

စာအုပ်အချို့ လမ်းညွှန်ပါရစေ။

نور العيون، رجال الفكر والدعوة في الإسلام، صور من حياة الصحابة، صور من حياة الصحابيات، صور من حياة التابعين، قصص من التاريخ الإسلامي.

ဖဓာအေ့လေ့အအိမ်မားလ် (ဟဇရသ်ရှိုင်ခ်မောင်လာနာဇကရီယာ)

ပေ့ကာယားသေ့ဆွဟာဗာ (ဟဇရသ်ရှိုင်ခ်မောင်လာနာဇကရီယာ)

တမန်တော်မြတ် မုဟမ္မဒ် (ﷺ) (ဃာဇီမုဟမ္မဒ် ဟာရှင်မ်)

အစ္စလာမ့်ခလီဖွာကြီးများ (ဆရာဦးသိန်းဝင်း-မြေထူး)

အစ္စလာမ့်သမိုင်း (جامعة الكوثر الإسلامية ထုတ်)

စတဲ့စာအုပ်တွေ ဖတ်ဖို့လိုမယ်နော်။ သားတို့သင်ရိုးစာအုပ်တွေထဲက အကြောင်းအရာတွေကိုလည်းတင်ပြလို့ရတာပဲ။

**နမားဇ်**

အီမာန်အကြောင်း အတိုင်းအတာတစ်ခုထိ သူတို့နားလည်လာရင် နမားဇ်ဆီသူတို့ကိုခေါ်ဆောင်သွားလိုက်ပါ။ အရင်ဆုံး နမားဇ်ရဲ့သော့တံက သန့်ရှင်းမှုရယူခြင်းပဲလို့

ကိုယ်တော်မြတ် (ﷺ) မိန့်ထားတယ်လေ။ ဒီတော့ သူတို့တွေအစ္စလာမ့်နည်းကျဂိုစိုလ်ရေချိုးတတ်ပြီလား၊အစ္စလာမ့်နည်းကျ ဝိုဇူပြုတတ်ပြီလားဆိုတာ ဦးစွာသိဖို့လိုလိမ့်မယ်။

ဘာဖြစ်လဲ … ချစ်သားကပဲ ဦးဆောင်ပြီး သားကျောင်းမှာရေချိုးနည်းသင်ခဲ့တယ်၊ ဝိုဇူပြုနည်းသင်ခဲ့တယ်။ သားရေချိုးတာ၊ ဝိုဇူပြုတာမှန်ရဲ့လားလို့ သူတို့ကိုမေးပြီး လုပ်ပြလိုက်။ အွတ်ဆ်မားန် (ﷺ) ကိုယ်တိုင် ကူဖာရဲ့ဗလီရင်ပြင်တစ်ခုမှာ လက်တွေ့ဝိုဇူပြုနည်း သင်ပေးခဲ့တာ သားဟာဒီးဆ်ကျမ်းတွေမှာဖတ်ဖူးပါတယ်။

သူတို့ရဲ့ ဂိုစူလ်မှန်ရင် ဝိုဇူမှန်မယ်၊ ဝိုဇူမှန်ရင် နမားဇ်မှန်မယ်။ နမားဇ်မှန်ရင် ဘဝမှန်မယ်။ ဘဝမှန်ရင် ဂျန္နသ်မှန်ပြီပဲ။ နမားဇ်ရဲ့ ထွက်မြတ်မှုတွေတင်ပြပေး။ ဖဇာအေ့လေ့နမားဇ်ဖတ်ပြ။ စသဖြင့်ပေါ့။ ပြီးရင်နမားဇ်မှာ သူတို့အကြည့်မှန်လား၊ လက်အထားအသို မှန်လား၊ ကေယာမ်မှန်လား၊ စဂျ်ဒဟ်မှန်လား၊ ရိုကူအ်၊ ကောင်ဝ်မဟ်မှန်ရဲ့လား။ စတဲ့နမားဇ်ဆိုင်ရာ ပညတ်ချက်တွေကိုလည်း မသိမသာကြည့်ပြီး ပြုပြင်ပေးခဲ့ပါ။

မိခင်ဖခင်တွေကိုလည်း သားကိုချစ်ရင် နမားဇ်ကို လေး စားပေးပါ။ သက်တမ်းမှာလွှတ်ခဲ့တဲ့နမားဇ်တွေရှိရင်လည်း တွက်ချက်ပြီး ဖြည့်သွားပါလို့ ချစ်စရာကောင်းတဲ့ အမူ အရာတွေနဲ့ပူဆာခဲ့ပါ။

**မုအာမလားသ်**

အပေးအယူ၊ ရောင်းဝယ်ဖောက်ကားခြင်း၊ စီးပွား ရေးလုပ်ခြင်းဆိုတာတွေဟာ လောကမှာရပ်တည်သွားနိုင် ဖို့ အကြောင်းတရားတွေပဲမဟုတ်လား။ အရမ်းလိုအပ် ပါတယ်။ ဒါပေမယ့်တိကျဖို့လိုတယ်။ မှန်ကန်ဖို့လိုတယ်။ သမာအာဇီဝနဲ့ဖြစ်ဖို့လိုတယ်။ အပြောတစ်ချက်မှားတာနဲ့၊ အလုပ်တစ်ချက်မှားတာနဲ့ အားလုံးဟရာမ်ဖြစ်သွားတတ် တယ်ဆိုတာကို ရှင်းပြပေးပါ။ ဟလာလ်ရိဇ်ဂ်ရှာဖွေခြင်းရဲ့ အကျိုးကျေးဇူးတွေ ကို ကြိုတင်လေ့လာသွားပါ။ ဟရာမ်ရဲ့ ဆိုးကျိုးတွေကို တင်ပြပါ။ ရက်ပေါင်း (၄၀) ရဲ့ အမလ် အရှင်မြတ်လက်မခံဘူးဆိုတာ ကိုယ်တော်မိန့်ခဲ့တယ် မဟုတ်လား။ ဟရာမ်တွေ ဘယ်လောက်များနေပါစေ

ဟလာလ် နည်းနည်းလေးက ပိုကောင်းပါတယ်ဆိုတာ ပြောလိုက်ပါ။

အတိုးကတော့ မွတ်စ်လင်မ့်ပတ်ဝန်းကျင်မှာ အရမ်း နေရာယူထားပြီ။ အများစုဒီဝဲဂယက်ထဲက ရုန်းမထွက်နိုင် တော့ဘူး။ အတိုးရဲ့ဆိုးကျိုးတွေကို အဓိက လေ့လာသွား ပါ။ ဆရာတွေကိုမေးမြန်းသွားပါချစ်သား။

**မုအာရှရည်**

လူမှုဆက်ဆံရေးဆိုတာဘဝသာယာစေမယ့်အကြောင်း ခံတစ်ခုပဲ ဆက်ဆံရေးကောင်းသူတွေဟာ ပတ်ဝန်းကျင်ရဲ့ မျက်နှာသာပေးခြင်းခံရပြီးတော့ ဆက်ဆံရေးညံ့သူတွေက တော့ အပယ်ခံဘဝကို ရောက်ကြရတာပဲ။ ဒါကြောင့် မိသားစုတစ်ခုလုံး မွန်ရည်တဲ့ဆက်ဆံရေးတွေရရှိလာဖို့ ကြိုးစားပေးပါ။ မိဘနဲ့သားသမီးဆက်ဆံရေး၊ ညီအစ်ကို မောင်နှမ အချင်းချင်းဆက်ဆံရေး၊ ဆွေးမျိုးတွေနဲ့ဆက်ဆံ ရေး၊ ပတ်ဝန်းကျင်နဲ့ဆက်ဆံရေး စတဲ့ကဏ္ဍအစုံ၊ အလွှာစုံ နဲ့ ကူးလူးဆက်ဆံရမယ့် ရွှေရောင်လမ်းညွှန်ချက်တွေကို

ချစ်နဗီ (ﷺ) က ကျွန်ုပ်တို့ကိုနှုတ်နဲ့ရော၊ အလုပ်နဲ့ရော လက်တွေ့ကျကျ သင်ကြားပေးခဲ့တယ်နော်။

ကျောင်းကထုတ်ဝေတဲ့ ဒီနီယားသ်(၅)တွဲဟာ ဒီအခြေခံ အချက်တွေအတွက် လုံလောက်မယ်ထင်တယ်ချစ်သား။

**အခ်လားက်**

လူ့ရဲ့တန်ဖိုးကို လူတွေက စာရိတ္တအလှ၊ ကိုယ်ကျင့် သီလတွေနဲ့ တိုင်းတာကြပါတယ်။ စာရိတ္တပျက်ပြားလာရင် အားလုံးထံမှာ အမဲစက်ရှင်ဖြစ်သွားမယ်။ သမိုင်းစွန်းထင်း သူပေါ့။ ဒါကြောင့် အိမ်ကမိသားစုကို စာရိတ္တအလှတွေနဲ့ ဆင်ယဥ်ချယ်သပေးခဲ့ပါ။ မှသားပြောသူပါရင် အမှန်တရား ရဲ့ အင်အားတွေနဲ့မိတ်ဆက်ပေးပါ။ အချောင်သမားစိတ် ဝင်နေသူကို ကြိုးစားအားထုတ်မှုရဲ့ အလှပြပေးပါ။ သူ တစ်ပါးအတွက် မကောင်းလိုလားနေသူကို အကောင်းလို လားပေးချင်စိတ်တွေဖြစ်လာဖို့တိုက်တွန်းပါ။နောက်ကွယ် အတင်းပြောနေတာတွေ့ရင် စူရဟ်ဟိုဂျိူရားသ်မှာပါတဲ့ အတင်းပြောခြင်းရဲ့ရလဒ်ဆိုးတွေကို လက်ဆင့်ကမ်းပေး ခဲ့ပါ။

ကိုယ်ကျင့်တရားမှာရှိတဲ့ အင်အားဟာ ရန်သူတွေကို မိတ်ဆွေအဖြစ်၊ ရှုံးနိမ့်ခြင်းကိုအောင်မြင်မှုအဖြစ်၊ ကျဆင်းနေခြင်းကို တိုးတက်ခြင်းအဖြစ်ပြောင်းလဲပစ်နိုင်ပါတယ်။ ကိုယ်တော်မြတ် (ﷺ) မက္ကာ့ပ်ာအောင်နိုင်ချိန် စာရိတ္တအလှတွေပြသပေးခဲ့တော့ အားလုံးနီးပါးအစ္စလာမ် လက်ခံကြတယ်မဟုတ်လား။

## ကိုယ်က စံပြရပ်တည်မှ

အို…ချစ်သားလေး၊ပြောခဲ့သမျှတွေအားလုံးကိုအကောင်အထည်ဖော်နိုင်ဖို့ သားကိုယ်တိုင်အရင်ဆုံး ပေးဆပ်ပြနိုင်မှ ဖြစ်မယ်နော်။ သမားတော်က နေမကောင်းဖြစ်နေလို့ မရဘူး။ ကိုယ်ကစံပြရပ်တည် ပေးနိုင်မှဖြစ်မယ်။ ကျေးဇူးရှင်ကြီး ဟဇရသ်မော်လာနာ အဗွလ်ဟာစံ အလီ နဒ်ဝီ သခင်က "အာလင်မ်တွေဟာ ကိဗ်လာညွှန်ကိရိယာတွေကဲ့သို့ပဲ၊ သူတို့မှန်နေရင် အွမ္မသ်ရဲ့ ကိဗ်လာလည်း မှန်နေမယ်၊ သူတို့တွေဟာ အွမ္မသ်ရဲ့အသဲနှလုံးပဲ။ နှလုံးကောင်းရင် ကျန်တာ ဘယ်မှမရွေ့တော့ဘူး" လို့မိန့်ခဲ့ပါတယ်။ ဒါကြောင့် သားတို့လွဲချော်လို့မရဘူး။ ပတ်ဝန်းကျင်မှာ

အကဲဖြတ်ဒိုင်လူကြီးတွေရှိသလို။ မိမိတို့ဘဝအတွက် စံနမူနာယူဖို့ စောင့်မျှော်နေကြတဲ့ သားတို့ သူငယ်ချင်းလေးတွေလည်းရှိကြတယ်နော်။

သားက မိသားစုကို ဦးဆောင်နေသူဖြစ်ဖို့လိုတယ်။ သူငယ်ချင်း တွေရဲ့ရင်ထဲအသဲထဲမှာ စွဲရစ်နေစေမယ့် အပြောင်းအလဲတွေယူလာဖို့လိုမယ်။ သားရဲ့နေပုံထိုင်ပုံ၊ စားပုံသောက်ပုံ၊ ပြောပုံဆိုပုံ၊ ဝတ်စားဆင် ယင်ပုံ၊ ရပ်တည်ပုံတွေက တမူထူးခြားနေမှဖြစ်မယ်။ အစွလာမ့်အလှတွေ ကွန့်မြူးနေတဲ့ပုံစံပေါက်နေရမယ်။ အိလင်မ်ရဲ့မွှေးရနံ့တွေ ပတ်ဝန်းကျင်မှာ ဆွတ်ဖျန်းပေးဖို့လိုပါမယ်။ ဒီကောင်လေး ကျောင်းရောက်တော့ ကွမ်းစားတတ်သွားတယ်၊ ဆေးလိပ်သောက်တတ်သွားတယ်။ ဖုန်းသုံးတတ်သွားတယ်။ ဂိမ်းဆော့တတ်သွားတယ်၊ ဆံပင်ကေကပုံပြောင်းသွားတယ်၊ ဂျင်းဘောင်ဘီတကားကား၊ လျှာထိုးဦးထုပ်တလူလူ၊ ဆိုင်ကယ်တဝီဝီနဲ့ အချိုးကိုမပြောဘူးဆိုတဲ့အသံတွေက ပတ်ဝန်းကျင်ရဲ့ချီးကျူးသံတွေမဟုတ်ဘူးဆိုတာသတိရှိဖို့ လိုတယ်နော်။

**အာလင်မ်ပျက်ရင် ပြည်ပျက်တယ်။**

**အာလင်မ်ကောင်းရင်ပြည်ကောင်းမယ်ဆိုတာ သတိချပ်နေပါ။**

## သမိုင်းတရားခံမဖြစ်စေနဲ့

သူ့မြင်လိုက်ရတာ ငါ့သားကို ကျောင်းထားချင်စိတ် မရှိတော့ပါဘူးဆိုတဲ့ စိတ်ခံစားချက်မျိုးမပေးမိပါစေနဲ့။ လူတွေနဲ့ကျောင်းတွေကို စိမ်းကားအောင်လုပ်သူ၊ မျိုးဆက်သစ်ကလေးတွေကို ကျောင်းနဲ့ဝေးအောင်လုပ်သူဆိုတဲ့ သမိုင်းတရားခံကြီး မဖြစ်ချင်စမ်းပါနဲ့။

## အားကျမမှားစေနဲ့

သားတို့အိမ်ရောက်ရင် ပတ်ဝန်းကျင်မှာ ရောင်စုံသူငယ်ချင်းဟောင်းတွေနဲ့တွေ့ရလိမ့်မယ်။ တချို့အခြေအနေကြောင့် စီးပွားရေးလုပ်နေရရှာမယ်။ တချို့လည်း ခေတ်ပညာရဲ့လမ်းကြောင်းပေါ်မှာ ရပ်တည်နေလိမ့်မယ်။ ဒါက သူတို့ရဲ့ရွေးချယ်ပိုင်ခွင့်တွေပဲလေ။ သူတို့ကျင်လည်ရာ တတ်သိရာတွေနဲ့ ဂျန္နသ်ဆီလှမ်းချီနိုင်ပါတယ်။ အရှင်မြတ်ကို ရှာဖွေနိုင်ပါတယ်။ ဘာမှအပြစ်မဟုတ်ပေမယ့်...

တစ်ခုတော့ရှိတယ်။ သားကလည်း သာသနာ့ပညာ သင်ယူမယ်ဆိုတဲ့ ဆုံးဖြတ်ချက်နဲ့ ဒီလမ်းကို ရွေးချယ် လျှောက်လှမ်းခဲ့ပြီ။ လူတစ်ယောက်က အရာအားလုံးမှာ ထူးချွန်ဖို့ဆိုတာ ဖြစ်နိုင်ပေမယ့် လွယ်ကူတဲ့ကိစ္စတော့ မဟုတ်ဘူး။ ကိုယ့်ရပ်တည်ချက်ကမှန်ကန်တယ်၊ ဆုံးခန်း တိုင်အောင်အရောက်လျှောက်လှမ်းမယ်ဆိုတဲ့ ဆုံးဖြတ် ချက်ကို သတိရနေပါ။ လေယူရာယိမ်းတဲ့ ကောက်ပင်ဆို တာ အဆံနတ္ထိဘာဝနဲ့ မီးမြိုက်ခံရတယ်။ ကောက်ရိုးမီးဆို တာလည်း တာရှည်မခံဘူးလို့ ဥပမာတွေမှာ ခိုင်းနှိုင်းပြော ဆိုကြတယ်။

ဒါကြောင့် စီးပွားရေးသမားနဲ့တွေ့ချိန် စီးပွားရေး ပြောင်းလုပ်ချင်တာမျိုး၊ ကောလိပ် တက္ကသိုလ်ဆက်တက် ချင်တာမျိုးတွေမဖြစ်ပါစေနဲ့ အွမ္မသ်မှာ စီးပွားရေးသမား ကြီးတွေလည်းလိုတယ်၊ ခေတ်ပညာတတ်တွေလည်း လိုတယ်။ သူတို့ကို သာသနာ့အလှ၊ အစ္စလာမ့်ပညာရေး တွေနဲ့ မိတ်ဆက်ပေးမယ့် သားတို့လို အရည်အချင်းရှင် တွေလည်းလို အပ်ပါတယ်။ ကိုယ်ရွေးချယ်ထားတဲ့ လမ်း

ကြောင်းပေါ် ရဲရဲကြီးလျှောက်စမ်းပါ။ စမ်းတဝါးဝါး ခရီး မဟုတ်ဘူးနော်။ တစ်လုံးဖတ်ရင် (၁၀) ဆ၊ ပြန်သင်ပေးရင် အကောင်းဆုံးသူ၊ ပညာသင်ယူနေစဉ် ကွယ်လွန်ရင်ဂျန္နသ်မှာ နဗီတွေထက်တစ်ဆင့်ပဲနိမ့်မယ်၊ ဂျန္နသ်ခရီး လွယ်ကူစွာ ဖြတ်သန်းနိုင်မည့်သူ စတဲ့ အကျိုးကျေးဇူးတွေပိုင်ဆိုင်ရမှာပါ။

**အိလ်မ်ပေါ် ဂုဏ်ယူတတ်ပါစေ**

အို...ချစ်သား သာသနာ့အသိပညာဆိုတာ သာမန်မဟုတ်ပါဘူး။ နှစ်ဘဝအောင်မြင်မှုရဲ့ သော့ချက်တွေ၊ အာမခံချက်တွေပါဝင်နေတယ်။ ဒီပညာရပ်ကို သင်ယူဖို့ အရှင်မြတ်က လူတိုင်းကို အခွင့်အလမ်းမချီးမြှင့်ထားဘူး။ အရှင်မြတ်လိုလားသူကိုပဲပေးတာ။ ကိုယ့်ရဲ့ အတွေးတစ်ချက်၊ အပြောတစ်ချက်၊ လုပ်ရပ်တစ်ခုကြောင့် အရှင်မြတ်က ဒီလမ်းကြောင်းပေါ်ကနေ ဖယ်ထုတ်လိုက်တာမျိုး မဖြစ်အောင် ကြိုးစားပေးပါ။ အရင်ဆုံး ဒီအိလ်မ်ရဲ့ တန်ဖိုးကိုနားလည်ပါ။ ဒီအိလ်မ်ကို ဆည်းပူးသင်ယူနေရတဲ့အတွက် ပျော်ရွှင်နေစမ်းပါ။ ဒီလမ်းကြောင်း ပေါ်ရပ်တည်ခွင့်ရရှိနေခြင်းပေါ် အရှင်မြတ်ကိုအမြဲကျေးဇူးတင်နေပါ။

ဘယ်နေရာပဲရောက်ရောက် ဘယ်သူတွေနဲ့ပဲတွေ့တွေ့ ဘယ်သူတွေကပဲ ဆွဲဆောင်နေပါစေ ငါဟာနှစ်ဘဝအောင်မြင်မှုရဲ့ သော့ချက်ပိုင်ရှင်ပဲလို့ ဂုဏ်ယူဝမ်းမြောက်နေပါ။ တမန်တော် ဆိုလိုင်မာန် (عليه السلام) သခင်ကြီးပြောတယ်မလား။ ﴿فَمَآ ءَاتَىٰنِۦَ ٱللَّهُ خَيۡرٌ مِّمَّآ ءَاتَىٰكُم ٣٦﴾ ငါ့ကို အရှင်မြတ်ချီးမြှင့်ထားတာတွေက မင်းတို့ရထားတာတွေထက်ပိုကောင်းတယ်"။ ဒီတော့ သားရထားတာတွေကလည်း စကြာဝဠာတစ်ခုလုံးထက်သာမြတ်တယ်။ ဘဂ်ဒါးဒ်က ဆရာကြီးတစ်ပါးက ဘုရင်နဲ့မှူးကြီးမတ်ရာတွေကိုပြောခဲ့တဲ့ သမိုင်းဝင်စကားမှတ်မိသေးတယ်မလား။ "ခြေထောက်ဆန့်ထားသူက လက်မဖြန့်ဘူးတဲ့"။ဒါကြောင့် အိမ်ပြန်တဲ့ တစ်ခဏမှာ လောကရဲ့အဆောင်အယောင်တွေထဲနစ်မြောမသွားပါစေနဲ့။ ကိုယ့်ရည်မှန်းချက်ကို ကိုယ်သတိရ၊ကိုယ်အဆင့်ကိုယ်သိပါလို့ပြော လိုက်ပါရစေ။

## အင်တာနက်ပေါ် အချိန်မဖြုန်းနဲ့

အခုအိမ်ရောက်ရင် ဖုန်းအမျိုးမျိုး၊ ဂိမ်းအမျိုးမျိုး၊ အင်တာနက် Packge အမျိုးမျိုးတွေ့ရလိမ့်မယ်။ ရှာထားသမျှ လောင်ကျွမ်းပစ်စေမယ့် အနုမြူဗုံးတွေလို့ မှတ်ထား

လိုက်ပါ။ အင်တာနက်တို့၊ ဖုန်းတို့၊ ဂိမ်းတို့ဆိုတာ ရှိုင်သွာန်ရဲ့ထောင်ချောက်တွေပါ။ သာသနာကိုလေ့လာဖို့၊ စာအုပ်တွေရှာဖို့၊ ကမ္ဘာ့နိုင်ငံအသီးသီးကပညာရှင်ကြီးတွေရဲ့ဟောကြားချက်တွေ၊ ဟောပြောပွဲတွေကို နားဆင်ဖို့ဆိုရင်တော့ တမျိုးပေါ့။ ဒါပေမယ့် လိုအပ်ချက်ဆိုတာ လိုအပ်သလောက်ပဲသုံးတာကောင်းပါတယ်။ ရှိုင်သွာန်ရဲ့ cctv system ကအရမ်းကြောက်ဖို့ကောင်းတယ်နော်။ အရှင်မြတ်ကိုယ်တိုင် ကျမ်းမြတ်ကုရ်အာန်မှာမိန့်ထားတယ်။

﴿ إِنَّهُۥ يَرَىٰكُمْ هُوَ وَقَبِيلُهُۥ مِنْ حَيْثُ لَا تَرَوْنَهُمْ ۝٢٧ ﴾ (الأعراف: ٢٧).

"ရှိုင်သွာန်နဲ့သူ့အပေါင်းအပါတွေက အသင်တို့မမြင်နိုင်တဲ့နေရာကနေအသင်တို့ကိုမြင်နေတယ်"။ ဒါကြောင့်အမြဲတမ်း .... ﴿ إِنَّ رَبَّكَ لَبِٱلْمِرْصَادِ ۝١٤ ﴾ (الفجر: ١٤). "အသင့်ဖန်ဆင်းရှင်ကအသင့်ကို အမြဲစောင့်ကြပ်နေတော်မူတယ်" ဆိုတာကိုနှလုံးသွင်းထားပါ။ ဖြစ်နိုင်ရင် လူအများရှေ့မှာပဲဖုန်းသုံးပါ။ ဖုန်းနဲ့ကိုယ်နဲ့ နှစ်ယောက်ထဲရှိရင် တတိယသူက ရှိုင်သွာန်ဆိုတာမှတ်ထားပါ။ ရှိုင်ခွလ်အစ္စလာမ်

ဟာဇရသ် မော်လာနာ မုဖ်သီ သကီး အွတ်ဆ်မာနီ သခင်က ဖုန်းရဲ့ဆိုးကြိုးတွေအကြောင်း ပြောကြားရင်းနဲ့ "လူတွေ အရင်က မကျူးလွန်ရဲတာတွေအခုဖုန်းနဲ့နှစ်ကိုယ်တည်း ကျူးလွန်နေကြပြီ၊ အရင်က ရုပ်ရှင်တစ်ကားကြည့်ဖို့ ကုရ်သာကအဟန့်အတားဖြစ်ခဲ့တယ်၊ ဒါရီက မသင့်တော် ဘူးလို့ တိတ်တဆိတ်သတိပေးတယ်၊ ခေါင်းပေါ်ကဦးထုပ် က မင်းမရှက်ဘူးလားလို့မေးတယ်။ အခုတော့ဖုန်းနဲ့ အရာရာကို ကျူးလွန်တော့တယ်။ ဒါတွေကို အရှင့် အကြောက်တရားနဲ့၊ တနေ့အရှင့်ရှေ့မှောက် ဝင်ရောက် ခစားရမယ် ဆိုတဲ့အတွေးတွေနဲ့ပဲ ပြုပြင်ပြောင်းလဲနိုင် မယ်။ ရှောင်ကြဉ်နိုင်မှာဖြစ်တယ်" လို့မိန့်ကြားထားတယ်။

မိသားစုထဲမှာဒီပိုးတွေရှိနေရင် သူတို့ကိုလည်း ဂိမ်း ဆော့ခြင်း၊ ဖုန်းကြည့်ခြင်းရဲ့ဆိုးကျိုးတွေပြောပြခဲ့ပါအုံး။ ဖုန်း၊ ဂိမ်းတွေမှာ နစ်မွန်းခြင်းဖြင့် ....

၁။ မျက်လုံးအားနည်းသွားမယ်။

၂။ ဦးနှောက်ကျုံ့သွားပြီးမှတ်ဉာဏ်ထိခိုက်လာမယ်။

၃။ ဘက်စုံ ကျန်းမာရေးထိခိုက်လာမယ်။

၄။ဘယ်အရာကိုမှဂရုမစိုက်တော့တာမျိုးတွေဖြစ်လာမယ်။

၅။ ဖန်ဆင်းရှင်နဲ့ ဖန်ဆင်းခံတို့ရဲ့ဝတ္တရားတွေကို ဥပေက္ခာပြုလာမယ်။

**ထပ်လောင်းပြီးတော့**

- မိမိဘဝပန်းတိုင်ပျောက်ဆုံးလာမယ်။
- သာသနာရေးကိစ္စတွေကိုလည်းဆောင်ရွက်ဖို့ခက်ခဲလာမယ်။
- လောကီရေးရာတွေကိုလည်း မပြုနိုင်ဘဲဖြစ်သွားမယ်
- ဖုန်းနဲ့အင်တာနက်တွင်ကျယ်လာချိန်ကတည်းကဂိုနာဟ်အဆန်းအပြားတွေ ပေါ်ပေါက်လာတော့တယ်။
- အရင်က ကျူးလွန်ဖို့မလွယ်ကူလှတဲ့ဂိုနာဟ်တွေကို ဖုန်း၊ အင်တာနက်တို့ကြောင့် အခုကျူးလွန်ဖို့လွယ်သွားတယ်။
- ဇေနာရဲ့တံခါးတွေ ပွင့်သွားတော့တယ်။
- အမျိုးသမီးငယ်တွေကလည်း ကိုယ့်အလှတွေကို အများသူမြင်အောင်ပြသလာတော့တယ်။
- အားလပ်ချိန်တွေလည်း တန်ဖိုးမဲ့သွားရတယ်။

– တဖြည်းဖြည်း ကျန်းမာရေး၊ လူမှုရေး၊ အိမ်ထောင်ရေး၊ စီးပွားရေးတွေပျက်စီးရင်း ဘဝဟာလည်း ရေစုန်မြောသွားတော့တယ်။

## မူးယစ်ယမကာ

ပတ်ဝန်းကျင်မှာ ဖုန်းနဲ့အင်တာနက်မှာ ယစ်မူးသူတွေရှိသလို မူးယစ်ဆေးအမျိုးမျိုးရဲ့သားကောင်ဖြစ်နေသူတွေလည်းရှိမယ်။ သူတို့ကို မူးယစ်ဆေးဝါးတွေရဲ့ အန္တရာယ်ကိုပြောပြခဲ့ပါ။ အရက်ဖြစ်စေ၊ ဘီယာဖြစ်စေ၊ ဆေးပြားဖြစ်စေ အားလုံးဟာ မူးယစ်စေတဲ့အရာတွေထဲမှာပါတယ်။ ဟရာမ်ဖြစ်တယ်ဆိုတာကိုရှင်းပြပါ။ ဒီလိုရှင်းပြတဲ့နေရာမှာ အောက်မှာဖော်ပြပေးမယ့် အာယသ်တွေရဲ့ သဖ်စီးရ်တွေက သားကိုအကူအညီပေးပါလိမ့်မယ်။

﴿ يَسْـَٔلُونَكَ عَنِ ٱلْخَمْرِ وَٱلْمَيْسِرِ ۖ قُلْ فِيهِمَآ إِثْمٌ كَبِيرٌ وَمَنَٰفِعُ لِلنَّاسِ وَإِثْمُهُمَآ أَكْبَرُ مِن نَّفْعِهِمَا ۗ ﴿٢١٩﴾ ﴾ (البقرة: ٢١٩).

﴿ يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تَقْرَبُوا۟ ٱلصَّلَوٰةَ وَأَنتُمْ سُكَٰرَىٰ ﴿٤٣﴾ ﴾ (النساء: ٤٣).

﴿ يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوٓاْ إِنَّمَا ٱلۡخَمۡرُ وَٱلۡمَيۡسِرُ وَٱلۡأَنصَابُ وَٱلۡأَزۡلَٰمُ رِجۡسٞ مِّنۡ عَمَلِ ٱلشَّيۡطَٰنِ فَٱجۡتَنِبُوهُ لَعَلَّكُمۡ تُفۡلِحُونَ ٩٠ ﴾ (المائدة: ٩٠).

မအာရေ့ဖုလ်ကုရ်အာန်ကျမ်းလာ ရှင်းလင်းချက်တွေဟာလည်း အရမ်းပြည့်စုံတယ်။ တခြားဘယ်သဖ်စီးရ်ကိုမဆိုမှီငြမ်းနိုင်ပါတယ်။

## တီဗွီကိုရှောင်

တီဗွီတွေကိုလည်းရှောင်ပါ။ တချို့က ကျောင်းမှာပျက်ခဲ့သမျှဇာတ်ကားတွေကို အားလပ်ရက်မှာ အပြီးကြည့်ဖို့မောင်းတင်ထားတယ်။ ဒါဟာ လုံးဝမဖြစ်သင့်တဲ့ကိစ္စ။ ဘဝဆိုတာ ရုပ်ရှင်၊ ဗီဒီယိုဇာတ်ကားတွေနဲ့ လားလားမျှမသက်ဆိုင်ဘူး။ ဒါတွေဟာ စီးပွားရေးသမားတွေရဲ့ အတ္တပြယုဂ်ပဲ။ တချို့နိုင်ငံရေး၊ ဘာသာရေးအမြတ်ထုတ်ချင်သူတွေရဲ့လက်နက်တွေပဲ။ နောက်ကွယ်ကပွဲကိုင်ရှင်ကတော့ ကိုရှိုင်သွာန်ပါပဲ။ တချို့ဇာတ်ကားတွေထဲမှာ အစ္စလာမ့်ရဲ့ပုံရိပ်ကို ပျက်စီးစေတဲ့ ဇာတ်ဝင်ခန်းတွေအများကြီးပဲ။ ရာစုနှစ်ပေါင်းများစွာကတည်းက စတင်သန္ဓေတည်လာတဲ့ Hollywood တို့ Bollywood တို့ရဲ့ နောက်ခံသမိုင်းတွေကို

သိစေချင်လိုက်တာ။ ဘယ်လိုပဲဖြစ်ဖြစ် သားတို့အားလုံး နားလည်စေမယ့် ဥပမာတချို့ပေးမယ်။ ဇာတ်ကားတွေထဲမှာ လူကြမ်းတွေဟာ အစ္စလာမ့်နာမည်တွေနဲ့။ သူတို့မဟုတ်တာတွေ လုပ်ခါနီးမှာ ဝတ်ထားတာတွေက မွတ်စ်လင်မ် ကိုယ်စားပြုအဝတ်အစားတွေ။ မွတ်စ်လင်မ်တွေဦးခေါင်းပေါ်မှာ အမြတ်တနိုးတင်ကြတဲ့ ပဝါတွေဟာ ရုပ်ရှင်ထဲကလူသတ်သမားရဲ့ခါးစီးကြိုး၊ လည်ပတ်ကြိုးပဲ။ တချို့တွေက လူသတ်ခါနီးရင် သက်ဗီးရ်ပါဆိုလိုက်သေးတယ်။ ဒါတွေက ဟာသတွေမဟုတ်ဘူး။ သားတို့ရဲ့ အစ္စလာမ့်ချစ်စိတ်တွေကို စိန်ခေါ်နေတာပဲ။ ကိုယ့်ဆီက ပိုက်ဆံ၊ ကျန်းမာရေး၊ အချိန်တွေ၊ စာရိတ္တစတဲ့ရတနာတွေကိုလည်း လုယူသေးတယ်။ ကိုယ့်အိမ်တွင်းမှာ ကိုယ့်အစ္စလာမ်ကိုလည်း သရုပ်ဖျက်သေးတယ်။ တကယ်တော့ ရုပ်ရှင်ကြည့်နေသူတွေဟာ ဇာတ်ကားတစ်ခုကို ကြည့်နေတာထက် အစ္စလာမ့်အနှစ်သာရတွေ ပျက်စီးနေတာကို ဝိုင်းသြဘာပေးနေတာပါပဲ။ ဇာတ်ကားတွေဆိုတာ ရတနာတွေမဟုတ်ပါဘူး။ ရတာနာတွေပါ။

နားလည်နိုင်ပါစေ …

﴿ وَمِنَ ٱلنَّاسِ مَن يَشۡتَرِي لَهۡوَ ٱلۡحَدِيثِ لِيُضِلَّ عَن سَبِيلِ ٱللَّهِ بِغَيۡرِ عِلۡمٖ وَيَتَّخِذَهَا هُزُوًاۚ أُوْلَٰٓئِكَ لَهُمۡ عَذَابٞ مُّهِينٞ ٦ ﴾ (لقمان: ٦).

ဖော်ပြထားတဲ့အာယသ်ရဲ့ သဖ်စီးရ်ကို ကိုယ်နှစ်သက်ရာ ကျမ်းမှာလေ့လာသွားပါ။ ပြီးတော့ မိသားစုကိုရှင်းပြပေးပါ။

## မိသားစုကို နွေးထွေးမှုတွေပေး

အခုအိမ်ရောက်တာနဲ့ ကိုယ့်မိသားစုကို နွေးထွေးမှုတွေပေးပါ။ အကြင်နာတွေနဲ့ခြံရံပေးပါ။ မိခင်ဖခင်ကို ပြုစုပါ၊ ညီ၊ အစ်ကိုတွေကိုဖေးမပါ။ ညီမအစ်မတွေရဲ့ အလုပ်တွေမှာလည်း ဝိုင်းဝန်းကူညီပေးပါ။ သူတို့တွေဟာ သားအတွက် အများကြီး ပေးဆပ်ထားတယ်မလား။ ဒါကြောင့် အိမ်ရောက်ရင် သူတို့နဲ့ တသီးတခြားကြီးမနေပါနဲ့။ သူတို့အနီးမှာ ချဉ်းကပ်နေပါ။ ဥမကွဲ သိုက်မပျက် ပေါင်းဖက်နေထိုင်ခြင်းဟာ အောင်မြင်တဲ့ မိသားစုရဲ့ လက္ခဏာပဲ။ မိသားစုကို စုစည်းဖို့ကြိုးစားခဲ့ပါ။ အခုခေတ် မိသားစုရဲ့ အခြေအနေတွေကအံ့ဩဖို့လည်းကောင်းသလို၊

ဝမ်းနည်းဖို့လည်းကောင်းတယ်။ တချိန်က ကြယ်စုံလစုံ မိစုံဖစုံနဲ့ ထမင်းလက်ဆုံစားခွင့်ရခဲ့တယ်။ အခုနှစ်တွေကြာ သွားတော့ အဖေနဲ့သား၊ အမေနဲ့သမီး ဆုံစည်းဖို့ခက်ခဲနေ တယ်။ အဖေကလည်း မနက်စောစောအလုပ်သွားမယ်၊ သားကကျူရှင်သွားနေတယ်။ ညကျတော့ အဖေလည်း ပင်ပန်းသွားတယ်၊ သားကလည်း ဖုန်းနဲ့မအားတော့ ဖခင်ကို ကြိုဆိုနှုတ်ဆက်ဖို့ဆိုတာဝေးစွ၊ ဂျန္နသိတံခါးမှူး ဖြစ်တဲ့ဖခင်ရဲ့ရုပ်လွှာကိုဖူးဖို့တောင်ခက်သွားတယ်။ တချို့ ရဲ့ နှလုံးသားက မတရားဘူး။ သူ့နှလုံးသားထဲမှာ သူငယ် ချင်းအပေါင်းအသင်းတွေအတွက် နေရာရှိတယ်။ မိဘ နှစ်ပါးနဲ့ မိသားစုအတွက် နေရာရှားနေတယ်။ ဒါတွေကို ပြန်လည်စဉ်းစားသုံးသပ်ပါ။ ဒီအားလပ်ရက်တွေဟာ ပြိုကွဲ နေတဲ့မိသားစုကို ပြန်လည်စုစည်းပေးဖို့ အသုံးဝင်ပါစေ။

မေတ္တာနဲ့ဝေးနေသူတွေကို မေတ္တာရေချမ်းဆီ ခေါ် ဆောင်သွားနိုင်ပါစေ။ အားလုံးစုရုံးနိုင်မယ့် အချိန်တစ်ခုမှာ မိသားစုကိုစုစည်းပြီး မရှိဝရဟ်တွေလုပ်ပါ။ သူတို့ပြော ချင်တာတွေ၊ ရင်ဖွင့်တာတွေကိုနားထောင်ပေးပါ။ ပြီးရင်

ကိုယ့်ဆီမှာ ဖြေဆေးရှိရင် တခါတည်းကုသပေးလိုက်ပါ။ မရှိရင်သမားတော်တွေဆီလွှမ်းမေးပါ။ ဒီလိုမိသားစုထိုင် ဝိုင်းမျိုးလေးကို နေ့စဉ်မပြတ် လုပ်ဆောင်ဖို့ ကြိုးစားရပါမယ်။

သူတို့ဟာ သိမ်ငယ်စိတ်တွေမွေးနေကြတယ်။ ဘဝရည်မှန်းချက် ပန်းတိုင်တွေပျောက်ဆုံးနေကြတယ်။ ဘဝဆိုတာကို စိတ်နာစရာကာလကြီးလို့ ထင်မှတ်နေကြတယ်။ ကိုယ့်တန်ဖိုးကို မသိတတ်တော့ဘူး။ ဒါတွေအားလုံးကို သားကကုစားပေးရမယ်။ သူတို့ဟာ တန်ဖိုးရှိသူတွေဖြစ်တယ်။ သူတို့ဆီမှာ ဂျန္နသ်သော့တံရှိတယ်။ အိမ်သာဝင်နည်းတွေကစလို့ ဂျန္နသ်ဝင်ခြင်းရဲ့ လမ်းညွှန်ချက်တွေကို ရရှိပိုင်ဆိုင်ထားတယ်။ စတဲ့စကားရပ်တွေနဲ့ ဖြေသိမ့်ကုသပေးပါ။

## ကြင်တတ်မှ ရ ပြင်တတ်မှ လှ

လောကဆိုတာ ခဏတာခရီးပါပဲ။ အတိတ်၊ ပစ္စုပ္ပန်နဲ့ အနာဂတ်ဆိုတဲ့ ကာလ (၃) ခုရဲ့ တောင်စွယ်မှာ သူ့ရဲ့ နေလုံးက ပျောက်ကွယ်သွားမှာပါ။ ဒီကာလ (၃) ခုကြားမှာ

ပဲ ရုန်းကန်လှုပ်ရှားရင်း သေခြင်းဆီ တိုးရွေ့နေကြရတာပဲ။ ဒါကြောင့် ဒီကာလ (၃) ခုနဲ့ပတ်သက်ပြီး သူတို့တာဝန်ကျေစေဖို့သားပြောပြခဲ့ပါ။

**အတိတ်ဆိုတာ** ပြန်ပိုင်ဆိုင်ချင်လို့ မရတော့တဲ့ ကာလတစ်ခုပဲ။ မပိုင်ဆိုင်တော့တဲ့အတိတ်ကို အဓိပ္ပါယ်ရှိအောင် ပြန်လည်မွမ်းမံခွင့်ကိုတော့ အစ္စလာမ်က ပေးထားတယ်သား ..။ အတိတ်ရဲ့ပုံရိပ်တွေ၊ မှားယွင်းချွတ်ချော်ခဲ့သမျှတွေကို စစ်မှန်တဲ့သောင်ဝ်ဗဟ်၊ အိစ်သေ့ဂ်ဖားရ်တွေနဲ့ ပြန်လည်သန့်စင်လိုက်လို့ရတယ်။ သောဝ်ဗဟ်ဆိုတာ ရှေ့ဆက်ပြီး လိမ္မာတော့မယ်လို့ အရှင့်ကိုကတိပေးတာ။ စစ်မှန်တဲ့ သောဝ်ဗဟ်မှာ စည်းကမ်းချက် (၃) ချက်ရှိရတယ်ဆိုတဲ့ အေမာမ်နဝဝီသခင်ကြီး ပြောကြားခဲ့တာ သတိရအုံးမှာပါ။

1 ـ الإقلاع عن المعاصي. 2 ـ الندامة عليها. 3 ـ ألا تعود إليها أبدا.

စံပြသောဝ်ဗဟ်ပြုသွားတဲ့ မာအိဇ် (رضي الله تعالى عنه) နဲ့ ဂျိုဟိုင်နဟ်မျိုးနွယ်ဝင် ဆွဟာဗီအမျိုးသမီးတို့ရဲ့အကြောင်းလေးတွေ

မိသားစုကိုပြောပြပါ။ ကိုယ်တော်မြတ် (ﷺ) က သူတို့နဲ့ ပတ်သက်ပြီးမိန့်ခဲ့တယ်လေ ....

"لقد تابت توبة لو قسمت على أهل المدينة لوسعتهم".

"သူမဟာ စစ်မှန်ပြီးစံချိန်မီတဲ့ သောဝ်ဗဟ်ပြုသွားခဲ့ပြီ၊ သူ့သောဝ်ဗဟ်ကို မဒီနာမှာရှိနေတဲ့ အကုသိုလ်ကျူးလွန်သူတွေကို ဝေပေးလိုက်ရင်လည်း လုံလောက်သွားမယ်" တဲ့။

တခြား သမိုင်းဝင် စံပြသောဝ်ဗဟ်ရှင်တွေအကြောင်းတွေပြောပြနိုင်ပါတယ်။

အိစ်သ္ဂေါ်ဖားရ်ဆိုတာ အတိတ်မှာကျူးလွန်ခဲ့သမျှကို အရှင့်ထံ ဝန်ချတောင်းပန်တာပဲ။ အရှင့်ရဲ့ရဟ်မသ်နဲ့ အပြစ်တွေကိုဖုံးအုပ်ပေးဖို့ တောင်းခံခြင်းပါပဲ။ ခြောက်ပြစ်ကင်းသဲလဲစင်ဖြစ်တော်မူသော ကိုယ်တော်မြတ် (ﷺ) ကိုယ်တိုင် တစ်နေ့အကြိမ် (၁၀၀) ထက်မနည်း အိစ်သ္ဂေါ်ဖားရ် ပြုခဲ့တယ်ဆိုတော့ ဂိုနာပင်လယ်မှာ နစ်မွန်းနေသူတွေ အတွက်ကတော့ ပိုလိုအပ်တာပေါ့။ ဒါကြောင့် မိသားစုဝင်တိုင်းကို တနေ့မှာ အနည်းဆုံး

အိစ်သေ့ဂ်ဖားရ် (၁၀၀) ထက်မနည်းဖတ်ဖို့ တိုက်တွန်းနှိုးဆော်ခဲ့ပါ။

တစ်ခုသတိပေးချင်တာက أستغفر الله ဆိုတဲ့ဝါကျက ထိလွယ်ရှလွယ်နော်။ ပ အသံကို ဗီဗီသသဖတ်မှ "အို ... အရှင်-ကျွန်ုပ်၏အပြစ်များကို ခွင့်လွှတ်ချမ်းသာပေးရန် တောင်းဆိုပါတယ်"လို့ အဓိပ္ပါယ်ရတယ်။ သမန်ကာရန်ကာ ဖတ်လိုက်လို့ أستكفر الله ဆိုတဲ့အသံမျိုးဖြစ်သွားရင် "အရှင့်ထံ ကာဖိရ်ဖြစ်ရန် တောင်းဆိုပါတယ်" လို့ အဓိပ္ပါယ်ပြောင်းသွားတော့တာပဲ။ နှုတ်ကဖတ်တဲ့အသံလည်း မှန်ရမယ်။ နှလုံးသားကလည်း မိမိကျူးလွန်သမျှကို သတိရရပြီးဖတ်လိုက်မယ်။ နှုတ်ရဲ့အသံနဲ့နှလုံး သားရဲ့တောင်းဆိုသံများ တစ်ထပ်တည်းကျသွားလို့ကတော့ ဂိုနာတွေကျွတ်သွားရုံတင်မကဘူး ကျူးလွန်ခဲ့သမျှဂိုနာများအစား ကောင်းမှု တွေစံစားရအုံးမှာတဲ့။

﴿ إِلَّا مَن تَابَ وَءَامَنَ وَعَمِلَ عَمَلًا صَٰلِحًا فَأُوْلَٰٓئِكَ يُبَدِّلُ ٱللَّهُ سَيِّـَٔاتِهِمْ حَسَنَٰتٍۗ وَكَانَ ٱللَّهُ غَفُورًا رَّحِيمًا ﴿٧٠﴾ ﴾(الفرقان: ٧٠).

လို့ အရှင်မြတ်က ကြေညာထားပြီးဖြစ်တယ်နော်။ ကိုယ်တော်မြတ် (ﷺ) ကလည်း အိစ်သေဂ်ဖားရ်ပြုနည်းပေါင်းများစွာသင်ပေးထားတယ်။ အထိရောက်ဆုံး အကောင်းဆုံး အိစ်သေဂ်ဖားရ် ခေါင်းဆောင်ကတော့ အခုဖော်ပြမယ့် ဒိုအာပါပဲ။

နံနက်၊ ညနေ ယုံကြည်ချက်အပြည့်နဲ့အောက်ပါ ဒိုအာကို ဖတ်ရွတ်တောင်းခံပြီးကွယ်လွန်သွားတဲ့သူဟာ ဂျန္နသီ စာရင်းဝင်ဖြစ်သွားမယ်။

اللَّهُمَّ أَنْتَ رَبِّي لاَ إِلَهَ إِلَّا أَنْتَ، خَلَقْتَنِي وَأَنَا عَبْدُكَ، وَأَنَا عَلَى عَهْدِكَ وَوَعْدِكَ مَا اسْتَطَعْتُ، أَعُوذُ بِكَ مِنْ شَرِّ مَا صَنَعْتُ، أَبُوءُ لَكَ بِنِعْمَتِكَ عَلَيَّ، وَأَبُوءُ لَكَ بِذَنْبِي فَاغْفِرْ لِي، فَإِنَّهُ لاَ يَغْفِرُ الذُّنُوبَ إِلَّا أَنْتَ. **(ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ် - ၆၃၀၆)**

**အသံထွက်**

အလ္လားဟုမ္မ အန်သ ရဗ်ဗီ လားအိလားဟ အိလ္လာ အန်သ ခလတ်(က်)သနီ၊ ဝအနအဗ်ဒုက ဝအန အလာ အဟ်ဒိက၊ ဝဝအ်ဒွေက မတ်စ်သသွက်အ်သု၊ အအူးဇုဗေ့က

မင်န်ရှရ်ရိ မာစွနအ်သု၊ အဘူးအု လက ဗိနိအ်မသိက အလိုက်ယ၊ ဝအဘူးအု ဗိဇန်ဘီ၊ ဖဂ်ဖိရ်လီ ဖအင်း(န်)နဟူ လာယဂ်ဖွေ့ရှုဇ်ဇူနူးဗ အိလ္လာအန်းသ။

**အဓိပ္ပါယ်**

အိုအရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၊မ၏ ဖန်ဆင်းရှင် ဖြစ်တော်မူပါသည်။ အရှင်မှတပါး အခြား ခဝပ်ကိုးကွယ်ခြင်း ခံထိုက်သူ ဟူ၍အလျင်းမရှိပါ။ အရှင် မြတ်ကသာ ကျွန်တော်မျိုး၊မအား ဖန်ဆင်း တော်မူခဲ့ပါ သည်။ ကျွန်တော်မျိုး၊မသည် အရှင်မြတ်၏ ကျေးကျွန်ဖြစ် တော်မူပါသည်။ ကျွန်တော်မျိုး၊မသည် တတ်နိုင်သရွေ့ အရှင်မြတ်နှင့် ပြုထားသည့် ကတိ၊ ပဋိညာဉ်များကို စောင့် ထိန်းပါမည်။ ကျွန်တော်မျိုး၊မသည် မိမိတို့ပြုခဲ့သမျှ မကောင်းမှုများမှ အရှင့်ထံ ခိုလှုံခွင့်တောင်းခံအပ်ပါသည်။ ကျွန်တော်မျိုး၊မအား အရှင်မြတ်ချီးမြှင့်ထားတော်မူသော နိအ်မသ် စည်းစိမ်တော်များကိုလည်း အသိအမှတ်ပြုပါ သည်။

ကျွန်တော်မျိုး၊မတို့သည် မိမိတို့ကျူးလွန်ထားသည့် အကုသိုလ်များကိုလည်း ဝန်ခံပါသည်။ အရှင်မြတ်မှတပါး မည်သူမှ အကုသိုလ်များကို လွတ်ငြိမ်းချမ်းသာခွင့် ပေး သနားနိုင်စွမ်းမရှိပါ။

**ကိုယ့်မိသားစုကို ဘာမှလုပ်မပေးနိုင်ခဲ့ရင်တောင်**

**ဒီဒိုအာသင်ပေးခြင်းနဲ့ ဂျန္နသီလုပ်ပေးခဲ့နိုင်မယ်နော်။**

## ပစ္စုပ္ပန်အတွက်

ဒီနေ့အွမ္မသ်က မွန်းကြပ်နေပြီ။ ထွက်ပေါက်တွေရှာနေပြီ။ ထွက်ပေါက်မရသူတွေက ကိုယ့်ကြမ္မာကို ကိုယ်တိုင် အဆုံးစီရင်နေကြပြီ။ တချို့က ကိုယ့်ဘဝဟာ လုံခြုံမှုမဲ့နေတယ်လို့ထင်နေကြတယ်။

အစ္စလာမ့်အနှစ်သာရတွေ သဘောထားတွေ သူတို့တွေ သိရှိကြမယ်ဆိုရင် ဒီလိုအဖြစ်မျိုးနဲ့မကြုံစေရဘူး။ ရှိပါစေ တော့လေ ....

မွန်းကြပ်နေတဲ့ သားပတ်ဝန်းကျင်ကသူတွေကို ပြော လိုက်ပါ။ လောကမှာ သုခနဲ့ဒုက္ခဆိုတာ အလှည့်နဲ့လာနေမှာ။ မွတ်စ်လင်မ်တစ်ဦးအတွက် ဒုက္ခဆိုတာ သုခပဲ၊

အဆင့်မြင့်စေတဲ့ကရိန်းတစ်ခုပဲ၊ အကု သိုလ်တွေပလပ် ဆေးပဲ။ ဒုက္ခရဲ့ ကောင်းခြင်းတွေအများကြီးရှိပါတယ်။ လောကမှာဖြေတတ်ရင် ကြေနပ်စရာတွေအများကြီးပဲ။ လွတ်က်မာန် ဟာကီးမ်သခင်ကြီးရဲ့ အကြောင်းအရာလေး သားကြားဖူးမှာပါ။ စပျစ်ခြံတစ်ခြံမှာ အလုပ်လုပ်တယ်။ သူ့သခင်က တစ်ရက်စပျစ်ခိုင်တစ်ခုသူစားဖို့ ချိုးပေးတယ် တဲ့။ သူက သူ့သခင်ပေးတဲ့စပျစ်ခိုင်ကြီးကို အားပါးတရစား နေလိုက်တော့ သခင်ကလည်း ယူစားကြည့်တယ်။ အရမ်း ကို ဖန်ခါးနေ တော့ သခင်က "ဒီလောက်ဖန်ခါးနေတာကြီး ကိုများ မင်းဘယ်လိုဖြစ်လို့ မြိန်ရည်ရှက်ရည်စားနေတာ လဲ" လို့မေးတော့ သခင်ကြီးဖြေလိုက်ပုံက "အမြဲအချို ကျွေးနေတဲ့လက်က တစ်ရက်အဖန်အခါးကျွေးလိုက်တာ ပြဿနာမရှိပါဘူးတဲ့"။ ဒုက္ခလို့မြင်နေရင် ကိုယ့်ပေါ်မှာရှိတဲ့ အရှင့်နိအ်မသ်တွေကို သတိရစေလိုက်စမ်းပါ။ ကိုယ့်ဒုက္ခ ထက်ပိုတဲ့ ဒုက္ခသယ်တွေကို ကြည့်ပြီးဖြေစေပါ။ ကားပေါ် ကလူက ဆိုင်ကယ်သမားကိုကြည့်ပြီး၊ ဆိုင်ကယ်သမားက စက်ဘီးသမားကိုကြည့်ပြီး၊ စက်ဘီးသမားက လမ်း

လျှောက်နေသူကိုကြည့်ပြီး၊ လမ်းလျှောက်နေသူက ခြေထောက်မပါသူကိုကြည့်ပြီး ဖြေလိုက်မယ်ဆိုရင်တော့ တော်တော် အဆင်ပြေသွားလိမ့်မယ်ထင်တယ်။

## ကိုယ်တော်ပေးတဲ့ ဘဝလုံခြုံရေး

မွတ်စ်လင်မ်တော်တော်များများဟာ မိမိတို့ဘဝတွေ မလုံခြုံဘူးလို့ ခံစားနေရတယ်။ ကြီးလန့်စာစားဘဝမျိုး ပေါ့။ သူတို့ကိုဒိုအာ အနတ်စ်အကြောင်း ရှင်းပြလိုက်ပါ။ အလွတ်ကျက်ခိုင်းလိုက်ပါ။ ကျောင်းတက် နေတဲ့ ကလေးတွေကို ဒီဒိုအာနှုတ်တိုက်သင်ပေးခဲ့ပါ။

အနတ်စ် (ﷺ) သခင်ဆင့်ပြန်ခဲ့တယ်။ "ကိုယ်တော်မြတ် (ﷺ) ကကျွန်ုပ်အား (အောက်ပါ) စာသားများကို သင်ပေးခဲ့ပါတယ်။ ထိုစာသားများကြောင့် ရက်စက်သူ၏ ရက်စက်ကြမ်းကြုတ်မှုသည်လည်း ကျွန်ုပ်ကို နစ်နာစေမည်မဟုတ်။ လိုအပ်ချက်များသည်လည်း လွယ်ကူသွားမည်ဖြစ်ပြီး၊ မွတ်စ်လင်မ်တို့သည်လည်း ကျွန်ုပ်ကို ချစ်ခင်ပျူငှာစွာ တွေ့ဆုံကြလိမ့်မယ်လို့ မိန့်ကြားခဲ့ပါတယ်။

اَللهُ أَكْبَرُ اَللهُ أَكْبَرُ، اَللهُ أَكْبَرُ، بِسْمِ اللهِ عَلَى نَفْسِيْ وَدِيْنِيْ، بِسْمِ اللهِ عَلَى أَهْلِيْ وَمَالِيْ، بِسْمِ اللهِ عَلَى كُلِّ شَيْءٍ أَعْطَانِيْ رَبِّيْ بِسْمِ اللهِ خَيْرِ الْأَسْمَاءِ، بِسْمِ اللهِ رَبِّ الْأَرْضِ وَرَبِّ السَّمَاءِ، بِسْمِ اللهِ الَّذِيْ لَا يَضُرُّ مَعَ اسْمِهِ دَاءٌ، بِسْمِ اللهِ اِفْتَتَحْتُ وَعلَى اللهِ تَوَكَّلْتُ، اَللهُ اَللهُ رَبِّيْ، لَا أُشْرِكُ بِهِ أَحَدًا، أَسْأَلُكَ بِخَيْرٍ، اَللَّهُمَّ مِنْ خَيْرِكَ الَّذِيْ لَا يُعْطِيْهِ أَحَدٌ غَيْرُكَ، عَزَّ جَارُكَ وَجَلَّ ثَنَاؤُكَ، وَلَا إِلٰهَ إِلَّا أَنْتَ، اِجْعَلْنِيْ فِي عِيَاذِكَ وَجَوَارِكَ مِنْ كُلِّ سُوْءٍ، وَمِنَ الشَّيْطَانِ الرَّجِيْمِ، اَللَّهُمَّ إِنِّيْ أَسْتَجِيْرُكَ مِنْ جَمِيْعِ كُلِّ شَيْءٍ خَلَقْتَ، وَاحْتَرِسُ بِكَ مِنْهُنَّ، وَأُقَدِّمُ بَيْنَ يَدَيَّ.

ပြီးရင် စူရဟ်အိခ်လားစ်ကို ဝဲ၊ ယာ၊ ရှေ့၊ နောက်၊ အပေါ်၊ အောက်တို့ကို ကြည့်ပြီး (၆) ကြိမ်ဖတ်လိုက်ပါ။

**(ကန်ဇွလ်အွမ္မားလ်ကျမ်း ၊ ဟဒီးဆ်အမှတ်-၅၀၂၁)**

## အဓိပ္ပါယ်

အလ္လာဟ်အရှင်မြတ်သည်သာ အကြီးကျယ်ဆုံး၊ (၃) ကြိမ် ကျွန်ုပ်၏အသက်ဇီဝိန်၊ သာသနာရေး၊ မိသားစု၊ ဥစ္စာပစ္စည်းနှင့် အရှင်မြတ်ကျွန်ုပ်အား ချီးမြှင့်ထားသော အရာတိုင်းနှင့် ပတ်သက်သည့်ကိစ္စအဝဝကို အရှင်မြတ်

နာမတော်ဖြင့် ခိုလှုံခွင့်တောင်းခံပါသည်။ အကောင်းတကာ့ အကောင်းဆုံးနာမတော်ပိုင်ရှင်၊ မိုးနှင့်မြေကိုဖန်ဆင်းတော်မူသော အရှင်မြတ်၏ နာမတော်၏သဟဲဖြင့် ခိုလှုံခွင့်တောင်းခံပါသည်။ ထိုအရှင်မြတ် နာမတော်၏ သဟဲရှိနေသရွေ့ မည်သည့်ရောဂါဘေးဘယာမှ ဆိုးကျိုး မပြုနိုင်ပါ။ အရှင်မြတ်၏နာမတော်ဖြင့် ကိစ္စရပ်တိုင်းကို စတင်ဖွင့်လှစ်ပါသည်။ ထိုအရှင်မြတ်အပေါ်တွင် ယုံပုံအားကိုးအားထားပြုပါသည်။ (အို) – အလ္လာဟ်အရှင်မြတ်၊ အရှင်မြတ်သည်ကျွန်ုပ်အား အဆင့်ဆင့် မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်ဖြစ်ပါသည်။ ထိုအရှင်မြတ်နှင့် မည်သည့်အရာကိုမှ တုဖက်နှိုင်းယှဉ်ခြင်းမပြုပါ။

အို–အရှင်မြတ်၊ အသင်အရှင်မြတ်အမှအပ မည်သူမှ ပေးစွမ်းနိုင်ခြင်းမရှိသည့်ကောင်းခြင်းများကို အရှင့်ထံမှ တောင်းခံအပ်ပါသည်။ အရှင့်ထံခိုလှုံသူသည်သာ အင်အားရှင်ဖြစ်ပါသည်။ အရှင်မြတ်၏ ချီးမွမ်းခန်းဖွင့်ခြင်းသည်သာ ကြီးကျယ်သော ကိစ္စရပ်ဖြစ်ပါသည်။ အရှင်မြတ်မှတပါး အခြားကိုးကွယ်ခြင်းခံထိုက်သူ အလျှင်းမရှိပါ။

အိုႛ–အရှင်မြတ်၊ ကျွန်တော်မျိုး၊မအား အဆိုးဟူသမျှနှင့် နှင်ထုတ်ခြင်းခံရသော ရှိုက်သွာန်မိစ္စာကောင်၏ အန္တရာယ်မှ ကင်းလွတ်ရန် အရှင်မြတ်၏ ခိုလှုံခွင့်အရိပ်အောက်တွင် နေထိုင်ခွင့်ပေးသနားတော်မူပါ။ အိုႛ–အရှင် ကျွန်တော်မျိုး၊မသည် အရှင်မြတ် ဖန်ဆင်းထားသမျှ အရာအားလုံး၏ (အန္တရာယ်ရန်စွယ်)မှ အရှင်မြတ်ထံကင်းရန်ဆုပန်ပါသည်။ ထိုအရာ အားလုံး၏အန္တရာယ်မှ အရှင်မြတ်ထံ လုံခြုံမှုတောင်း ခံအပ်ပါသည်။ (ခိုလှုံခွင့်အလုံးစုံကို) ကျွန်တော်မျိုး ဦးထိပ်ပန်ဆင်ပါသည်။

**အသံထွက်**

ဗိစ်မိလ္လာဟိ အလာ နဖ်စီ၊ ဝဒီးနီ၊ ဗိစ်မိလ္လာဟိ အလာအဟ်လီ ဝမာလီ၊ ဗိစ်မိလ္လာဟိ အလာကုလ်လိ ရှိုင်အင်န် အအ်သွာနီ ရဗ်ဗီ၊ ဗိစ်မိလ္လာဟိ ခိုင်ရိလ် အတ်စ်မားအိ၊ ဗိစ်မိလ္လာဟိ ရဗ်ဗိလ်အရ်သွေ့ ဝတ်စ်စမားအိ၊ ဗိစ်မိလ္လာဟိလ် လဇီ လာယသုရ်ရို့ မအတ်စ်မေ့ဟီ ဒါအွန်၊ ဗိစ်မိလ္လာဟိ အိဖ်သသဟ်သို့၊ ဝအလလ္လားဟိ သဝကလ်သို့၊ အလ္လားဟု အလ္လားဟု ရဗ္ဗီ

လာအုရ်ရိကု ဗိဟီ ရှိုင်အန်၊ အတ်စ်အလုက အလ္လာဟုမ္မ ဗိခိုင်းရေ့က မင်န်ခိုင်းရေ့ကလ်လဇီ လာယုအ်သီးဟိ ဂိုင်းရုက၊ အတ်ဇ္ဇဂျားရုက၊ ဝဂျလ္လ ဆနားအုက ဝလား အေ့လားဟာ အိလ္လာအန်သ၊ အိဂ်ျအလ်နီ ဖီအိယားဇေ့က၊ ဝဂျဝါးရေ့က မင်န်ကုလ်လေ့ စူးအင်န်၊ ဝမိနတ်ရ် ရှိုင်သွားနိရ်ရဂျီးမ်၊ အလ္လာဟွမ္မ အင်န်နီး အတ်စ်သဂျီးရုက မင်န်ဂျမီးအေ့ ကုလ်လေ့ ရှိုင်အင်န် ခလတ်က်သ၊ ဝအဟ်သရေ့စို့ ဗိက ဂျမီးအန်မ် မင်န်ဟွန်းန၊ ဝအုကဒ်ဒိမု ဘိုင်းန ယဒိုင်ယ။

**အနာဂတ်အတွက်**

အွမ္မသ်ရဲ့ အနာဂတ်က ဝေးဝါးနေပါတယ်။ ကမ်းမမြင် လမ်းမမြင် အနေအထားမျိုးပေါ့။

အနာဂတ်ဆိုတာ ကိုယ်မပိုင်ဆိုင်တဲ့ကာလတစ်ခုပါပဲ။ ဘယ်လို အခြေအနေမျိုးနဲ့ ကြုံဆုံရမယ်ဆိုတာကိုလည်း မသိရှိနိုင်ပါဘူး။ ဘယ်လိုမဆို အနာဂတ်မှာ အကောင်း တွေရှိပြီး၊ အဆိုးတွေ၊ အနိဋ္ဌာရုံတွေကနေ ခိုလုံခွင့်ရဖို့ ကိုယ်တော်မြတ် (ﷺ) က အွမ္မသ်ကို ဒိုအာတစ်ပုဒ် သင်

ကြားပေးခဲ့ပါတယ်။ ဒီဒိုအာကိုလည်း သားအနေနဲ့ ကိုယ့်ရဲ့ အိမ်သူအိမ်သားတွေကို သင်ပေးခဲ့ပါအုံး။

اللَّهُمَّ إِنَّا نَسْأَلُكَ مِنْ خَيْرِ مَا سَأَلَكَ مِنْهُ نَبِيُّكَ مُحَمَّدٌ صَلَّى اللهُ عَلَيْهِ وَسَلَّمَ وَنَعُوذُ بِكَ مِنْ شَرِّ مَا اسْتَعَاذَ مِنْهُ نَبِيُّكَ مُحَمَّدٌ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، وَأَنْتَ الْمُسْتَعَانُ، وَعَلَيْكَ البَلاَغُ، وَلاَ حَوْلَ وَلاَ قُوَّةَ إِلاَّ بِاللهِ.

**(သိရ်မေ့ဇီကျမ်း၊ ဟဒီးဆ်အမှတ်-၃၅၂၁)**

## အသံထွက်

အလ္လားဟုမ္မ အင်န်နာ နတ်စ်အလုက မင်န်ခိုင်းရေ့ မာစအလက မင်န်ဟု နဗီယ်ယုက မုဟမ္မဒွန် စွလ္လားဟု အလိုင်ဟိ ဝစလ္လမ်၊ ဝနအူးဇု ဗေ့က မင်န်ရှရ်ရေ့ မာစ်သအားဇ မင်န်ဟု နဗီယ်ယုက မုဟမ္မဒွန် စွလ္လားဟု အလိုင်ဟိဝစလ္လမ်၊ ဝအန်သလ် မုစ်သအားနု၊ ဝအလိုင်း ကလ် ဘလားဂု၊ ဝလာဟောင်ဝ်လ ဝလာကုဝ်ဝသ အိလ္လာ ဗိလ္လားဟ်။

## အဓိပ္ပါယ်

အို-အရှင်မြတ်၊ အရှင့်နဗီတမန်တော် မုဟမ္မဒ် (ﷺ) တောင်းခံခဲ့သော ဒိုအာများမှ အကောင်းတကာ့ အကောင်း

ဆုံးများကို ကျွန်ုပ်တို့ အရှင့်ထံ တောင်းခံအပ်ပါသည်။ ထို့ပြင် အရှင့်နဗီတမန်တော် မုဟမ္မဒ် (ﷺ) ခိုလှုံခွင့်တောင်းခံခဲ့သည်များအနက် အဆိုးတကာ့ အဆိုးဆုံးများမှ ကျွန်ုပ်တို့ အရှင့်ထံ ခိုလှုံခွင့်တောင်းခံအပ်ပါသည်။ အရှင်မြတ်သည်သာ အကူအညီတောင်းခြင်းခံထိုက်တော်မူသော အရှင်ဖြစ်ပါသည်။ တောင်းခံသမျှကိုလည်း အရှင်မြတ်သာ ဖြည့်ဆည်းပေးနိုင်ပါသည်။ ကောင်းမှုပြုနိုင်စွမ်း၊ အပြစ်များမှ ရှောင်ကြဉ်နိုင်ရန် စွမ်းအားတို့သည်လည်း အရှင်မြတ်ချီးမြှင့်ပေးမှသာ ရရှိနိုင်ပါမည်။

**ဒိုအာပေါင်းချုပ်**

အဗူအုမာမား (رضي الله عنه) သခင်ဆင့်ပြန်ခဲ့တယ်။ ကျွန်ုပ်တို့ ကကိုယ်တော်မြတ် (ﷺ) အား "အို-ကိုယ်တော်သခင် ကျွန်ုပ်တို့သည် ကိုယ်တော်တောင်းသမျှဒိုအာများကို လိုက်လံကျက်မှတ်နိုင်စွမ်းမရှိပါ။" ဟုလျှောက်ထားသောအခါ ကိုယ်တော်မြတ် (ﷺ) က "ငါအသင်တို့ကို ဒိုအာပေါင်းချုပ် တစ်ခု သင်ပေးရမည်လော" ဟုမိန့်ကြားပြီး အထက်ပါ ဒိုအာကို သင်ကြားပေးခဲ့ပါတယ်။

"ဒီဒိုအာကို တောင်းဆိုလိုက်ရင် လောကီလောကုတ္တရာ နှစ်ဌာနရှိ ကောင်းခြင်းဟူသမျှကိုလည်း ရရှိသွားမယ်၊ မကောင်းခြင်းဟူသမျှကနေလည်း ခိုလှုံပြီးဖြစ်သွားမယ်။" လို့ သုဟ်ဖသွလ်အဟ်ဝဇီကျမ်းရှင်က ရေးသားထားပါသေးတယ်။

ဒီဒိုအာဟာ အကောင်းဆုံး၊ အပြည့်စုံဆုံးသောဒိုအာ ဖြစ်တယ်လို့လည်း မုလ္လာအလီကာရီ သခင်ကြီးက မိမိရဲ့ မိရ်ကားသ်ကျမ်းမှာ ဖော်ပြထားပါသေးတယ်။

## တစ်ခုလောက်တော့ ပေးပါရစေ

နောက်တစ်ခုမှာချင်တာက သားတို့အိမ်ပြန်တော့မယ် ဆိုရင် ကျောင်းမှစတင်ထွက်ခွာချိန်ကတည်းက ခရီးသွား မှတ်တမ်းပြုစုခဲ့ပါ။ အရဗီလိုရေးနိုင်ရင် အရဗီလိုပေါ့။ မရ လည်း ကိုယ့်မိခင်ဘာသာစကားနဲ့ပေါ့။ နေ့စဉ်မအိပ်ခင် တနေ့တာရဲ့အမှတ်တမဲ့တွေ၊ အမှတ်တရတွေကို ရက်စွဲ တပ်ပြီး မှတ်တမ်းတင်လိုက်ပါ။ အားလပ်ရက်မှာ ဘာတွေရပြီး ဘာတွေလက်လွှတ်ဆုံးရှုံးလိုက်ရလဲဆိုတာ၊ ဘာတွေပြုလုပ်နိုင်ပြီး ဘာတွေကျန်သွားတယ်ဆိုတာမျိုး၊

မိသားစုနဲ့ကိုယ့်ရဲ့ကြား ပျော်ဝင်ပတ်သက်မှုတွေ၊ သံယောဇဉ်အမျှင်တန်းမှု တစ်နံ့တလျားတွေ၊ ထိတွေ့ ဆက်ဆံမှုတွေ၊ အတူစီးမျောခွင့်ရခဲ့တဲ့ ကာလတွေကို စနစ်တကျမှတ်တမ်းတင်ခဲ့ပါ။ အရင်ဆုံးခရီးသွားမှတ်တမ်းနမူနာတွေကို လေ့လာပါ။ ရှိုင်ခွလ်အစ္စလာမ် ဟာဇရသ်သကီးဆပ်ရဲ့ ခရီးသွားမှတ်တမ်းတွေက နမူနာယူစရာ ကောင်းတယ်နော်။ "ကမ္ဘာတစ်ခွင်မြင်တွေ့ခဲ့သမျှ" ဟာ ဆရာကြီးဦးသိန်းဝင်း (မြေထူး) ဘာသာပြန်တဲ့ ဟာဇရသ် မုဖ်သီသကီးဆပ်ရဲ့ ခရီးသွားမှတ်တမ်းတွေပါပဲ။ ပြန်လာရင်ကိုယ့်ရဲ့ခရီးသွားမှတ်တမ်းတွေကို နီးစပ်ရာဆရာကြီးတွေကိုလည်း စစ်ပေးဖို့ပြောအုံးနော်။

**သားတို့ဟာ တာဝန်ခံတွေပဲ**

တခုပြောချင်သေးတယ်။ သားတို့ဟာ နောက်လိုက်တွေမဟုတ်ဘူးနော်။ တာဝန်ခံတွေ၊ အိမ်ရဲ့သာသနာရေးဆိုင်ရာခေါင်းဆောင်တွေပဲ။ ကိုယ့်တာဝန်ကိုသိပါ။ သစ္စာရှိပါ။နောက်လိုက်ကောင်းတွေဆိုတာခေါင်းဆောင်ကောင်းဆီမှာပဲရှိတာပါ။ ခေါင်းဆောင်ပီသပြီး သာသနာ့ မူဘောင်

တွေနဲ့မိသားစုကို ထိန်းကျောင်းဖို့အစီအစဉ်ချပါ။ ပတ်ဝန်းကျင်ရဲ့ ဝဲထဲမှာမျောပါသွားလို့မရဘူး။ ပတ်ဝန်းကျင်ရဲ့ လွှမ်းမိုးခြင်းကို ခံလိုမဖြစ်ဘူး။ ကိုယ်က ပဲ့ကိုင်သင့်ရင် ပဲ့ကိုင်ပြီး မိသားစုစီးနင်းလိုက်ပါလာတဲ့လှေကို အောင်မြင်မှုရဲ့တစ်ဖက်ကမ်းဆီ လှော်ခပ်ခေါ်ဆောင်သွားပေးပါ။ ကိုယ်တိုင်လည်းတရားရပြီး တခြားသူကိုလည်းတရားပြသူဖြစ်ပါ။

﴿ وَٱجۡعَلۡنَا لِلۡمُتَّقِينَ إِمَامًا ﴾ (الفرقان: ٧٤).

ရဲ့သဘောတရားကဒါပါပဲ။

## ကျောင်းကပေးလိုက်တဲ့ အားလပ်ရက်စစ်တမ်း

ကျောင်းကပေးလိုက်တဲ့ အားလပ်ရက်စစ်တမ်းက တကယ်တော့ သားတို့ပေါ်မှာ သွယ်တန်းနေတဲ့ ဆရာတွေရဲ့ သံယောဇဉ်နှောင်ကြိုးပါပဲ။ ဆရာတွေက တအားဖြစ်စေချင်တာ။ သန့်ပြန့်စင်ကြယ်တဲ့ဘဝမျိုးကို တပည့်တွေတည်ဆောက်တာကို မြင်ချင်ကြတာ။ ဆန်စင်ရာ ကျီပွေ့လိုက်တယ်လို့ တလွဲအဓိပ္ပါယ်မပြန်ပါနဲ့။

ဒါကြောင့် အဲ့ဒီဇယားမှာ တိတိကျကျမှန်မှန်ကန်ကန် ဖြည့်စွက်ပါ။ အုပ်ထိန်းသူလက်မှတ်ကိုလည်း သေချာယူလာပါ။

## အချိန်ဇယားနဲ့ အလုပ်လုပ်ပါ

နောက်ဆုံးမှာချင်တာကတော့ - အခုပြောခဲ့တဲ့ထဲမှာ အလုပ်တွေ အများကြီးလုပ်ဖို့ပြောလိုက်တယ်။ အချိန်ဇယားဆွဲမှပဲ အားလုံးကို လက်တွေ့ကျကျဆောင်ရွက်နိုင်မှာပါ။ အချိန်ဇယားဆွဲပြီးလုပ်ကြည့်ပါ အချိန်တွေမှာ ဘရိကသ်တွေ တွေ့ရလိမ့်မယ်။

ဒီနေ့ကမ္ဘာမှာ အောင်မြင်သူများရဲ့ ဘဝဖြစ်စဉ် တိုင်းရဲ့ နောက်ကွယ်မှာ အချိန်လေးစားခြင်းဆိုတာက ထိပ်တန်းမှာ ရပ်တည်နေတာ။

အရင်ဆုံး ကိုယ့်ရဲ့ ကိုယ်ပိုင်အချိန်တွေကို ချရေးလိုက်ပါ။ ပြီးရင် ကိုယ့်ရဲ့အလုပ်တွေကိုချရေးပါ။ ပြီးရင်ဘယ်အချိန်မှာ ဘယ်အလုပ်ကို ဘယ်လောက်အတိုင်းအတာ လုပ်ရမယ်ဆိုတာကို ချင့်ချိန်သတ်မှတ်ပါ။

အေမာမ်ရှာဖေ့အီသခင်ကြီးက မိန့်ထားတယ် ...

الوقت سيف إن لم تقطعه قطعك

"အချိန်ဆိုတာ ဓါးသဖွယ်ပဲ၊ ကိုယ်ကဦးအောင်မဖြတ်ရင် သူကမင်းကိုဖြတ်သွားလိမ့်မယ် ...."

ဝန်ကြီးဆွာလေ့ဟ်ဆိုသူကပြောထားတယ် ....

الوقت أنفس ما عنيت بحفظه وأراه أسهل ما عليك يضيع

"အချိန်ဆိုတာ ဂရုတစိုက် ထိန်းသိမ်းထိုက်တဲ့အဖိုးတန်ရတနာတစ်ခုပဲ။ ဒါပေမယ့်မင်းထံမှာ လွယ်လွယ်လေးပျက်စီးနေတာကိုငါတွေ့နေရတယ်ကွာ။"

ငယ်ငယ်ကဖတ်ဖူးခဲ့တဲ့ကဗျာလေးရယ် မင်းသိပ်မှန်တာပဲ ....

گیا وقت پھر ہاتھ آتا نہیں

بہتے دریا کے مانند چپ چاپ چلا جاتا ہے۔

"ကုန်လွန်သွားတဲ့ အချိန်တွေဟာ ပြန်မရနိုင်တော့ပါဘူး။ အသံတိတ်စီးတွေနေတဲ့ စမ်းချောင်းလေးလိုတိတ်ဆိတ်စွာ ကုန်လွန်သွားပါတယ်။"

ရှိုင်ခ်အဗ်ဒုလ်ဖသ်သားဟ်အဗူဂွဒ်ဒါဟ်ရဲ့ قيمة الزمن عند العلماء ဆိုတဲ့စာအုပ်က သားအချိန်လေးစားဖို့သင်ပေးလိမ့်မယ်။

**နိဂုံးချုပ်**

ကယ် … မှာတမ်းခြွေတာတွေများနေပြီ၊ သားလည်း ငြီးငွေ့နေပြီပေါ့။ အခိကကတော့ ကိုယ့်အဆင့်ကိုယ်သိရင် ဒီမှာတမ်းတွေ၊ မှတ်တမ်းတွေလည်း လိုတော့မှာမဟုတ်ဘူး။ သားအတွက် အကောင်းဆုံးရဲ့ အကောင်းဆုံးများကို မျှော်လင့်ရင်း … ဖတ်ခဲ့သမျှကို လက်တွေ့ကျင့်သုံး၊ အမြင့်ဆုံးအဆင့်ကိုပိုင်ဆိုင်ပြီး သားပြန်လာမယ့်နေ့တွေကို လက်ချိုးရေတွက်ကာ စောင့်မျှော်နေရင်း ….

**သားကိုချစ်တဲ့ သားချစ်သူ**

**15/ربيع الأول/1441 هـ، 2019/11/13 م (يوم الأربعاء)**